ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အတွင်း

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ

# အဆင့်မြင့်ဓါတ်ဆီ၊ဒီဇယ်ဆီများ သိုလှောင်ရောင်းချသည့်လုပ်ငန်းဆောင်ရွက်ရန်အတွက် ရင်းနှီးမြှုပ်နှံသူ၏ လုပ်ငန်းအဆိုပြုချက်

Brighter Energy Company Limited



Brighter Energy
Company Limited



ပုံစံ (၂)

# ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော်အတွင်း ရင်းနှီးမြှုပ်နှံမှုပြုလုပ်ရန် ရင်းနှီးမြှုပ်နှံသူ၏ အဆိုပြုချက်



007

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ် ၊

ရက်စွဲ ၊ ၂၀ ခုနှစ်၊ လ ရက်

ကျွန်တော်/ကျွန်မသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၃၆ နှင့်အညီ ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော်အတွင်း ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုပါသဖြင့် ခွင့်ပြုပါရန် အောက်ပါအချက်အလက်များ ကိုဖော်ပြ၍ လျှောက်ထားအပ်ပါသည်-

၁။ ရင်းနှီးမြှုပ်နှံသူ၏ -

(က) အမည် ဦးမိုးဆန်းအောင်

(ခ) အဖအမည် ဦးအောင်မျိုး

(ဂ) နိုင်ငံသားစိစစ်ရေးကတ်အမှတ်/ ၃/ဘအန (နိုင်) ၀၂၅၀၇၂

နိုင်ငံကူးလက်မှတ်အမှတ်

(ဃ) နိုင်ငံသား မြန်မာ

(င) နေရပ်လိပ်စာ

(၁) ပြည်တွင်း အမှတ် (၈၀/စီ)၊ကမ္ဘာ့ဇလမ်းသွယ်(၂)၊ရွှေတောင်ကြား(၁)ရပ်ကွက်၊ဗဟန်းမြို့နယ်၊ရန်ကုန်မြို့

(၂) ပြည်ပ

(စ) တယ်လီဖုန်း /ဖက်စ် 01-505007

(ဆ) အီးမေးလ်လိပ်စာ

(ဇ) ပင်မကုမ္ပဏီအမည် Brighter Energy Company Limited

(ဈ) ပင်မကုမ္ပဏီတည်ရှိရာလိပ်စာ အမှတ်(၆၄)၊ဘုရင့်နောင်လမ်း၊သီရိမွန်အိမ်ရာ၊၁၅ရပ်ကွက်၊လှိုင်မြို့နယ်၊ရန်ကုန်မြို့။

(ည) လုပ်ငန်းအမျိုးအစား ဓါတ်ဆီ၊ဒီဇယ်ဆီနှင့် (LPG)များသိုလှောင်ရောင်းချခြင်းလုပ်ငန်း

၂။ ဖက်စပ်ပြုလုပ်၍ ရင်းနှီးမြှုပ်နှံလိုပါကရင်းနှီးမြှုပ်နှံသူနှင့် ဖက်စပ်ပြုလုပ်မည့် သူများ၏ -

(က) အမည် ..................

(ခ) အဖအမည် ..................

(ဂ) နိုင်ငံသားစိစစ်ရေးကတ်အမှတ်/ ..................

နိုင်ငံကူးလက်မှတ်အမှတ်

(ဃ) နိုင်ငံသား ..................

(င) နေရပ်လိပ်စာ ..................

(၁) ပြည်တွင်း ..................

(၂) ပြည်ပ ..................

(စ) ပင်မကုမ္ပဏီအမည် ..................

(ဆ) ပင်မကုမ္ပဏီတည်ရှိရာလိပ်စာ ..................

**မှတ်ချက်။** အထက်အပိုဒ် ၁၊ ၂ တို့နှင့် စပ်လျဉ်း၍ အောက်ပါအချက်များကို ပူးတွဲတင်ပြရန်-

(၁) ကုမ္ပဏီမှတ်ပုံတင်အထောက်အထားများ (မိတ္တူ)

(၂) နိုင်ငံသားစိစစ်ရေးကတ်အမှတ် (မိတ္တူ) နှင့် နိုင်ငံကူးလက်မှတ် (မိတ္တူ)

(၃) အဆိုပြုလုပ်ငန်းတွင် ပါဝင်လိုသူများ၏ လုပ်ငန်းပိုင်းနှင့် ငွေရေးကြေးရေး ဆိုင်ရာအထောက်အထားများ

၃။ ရင်းနှီးမြှုပ်နှံသူကိုယ်တိုင် လျှောက်ထားခြင်းမဟုတ်ပါကလျှောက်ထားသူ၏ -

(က) အမည် ..................

(ခ) ဆက်သွယ်ရမည့်ပုဂ္ဂိုလ်အမည် ..................

(လျှောက်ထားသူသည် စီးပွားရေးအဖွဲ့အစည်းဖြစ်ပါက)

မှတ်ချက်။ တရားဝင်ကိုယ်စားလှယ်လွှဲစာပူးတွဲတင်ပြရန်

(ဂ) နိုင်ငံသားစိစစ်ရေးကတ်အမှတ်/နိုင်ငံကူးလက်မှတ်အမှတ် ..................

(ဃ) နိုင်ငံသား ............................................ - ............................................

(င) မြန်မာနိုင်ငံတွင်နေထိုင်သည့် ............................ - ............................................

နေရပ်လိပ်စာ ............................................ - ............................................

(စ) တယ်လီဖုန်း/ ဖက်စ်/ ............................................................................................

(ဆ) အီးမေးလ်လိပ်စာ ......................................... - ............................................

၄။ ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့် လုပ်ငန်းအမျိုးအစား.......................................................

ဓါတ်ဆီ၊ဒီဇယ်ဆီနှင့် (LPG)များ သိုလှောင်ရောင်းချခြင်းလုပ်ငန်း

၅။ ဖွဲ့စည်းမည့် စီးပွားရေးအဖွဲ့အစည်းပုံသဏ္ဌာန်

☒ ရာခိုင်နှုန်းပြည့် ☐ ဖက်စပ်ပြုလုပ်ခြင်း (ဖက်စပ်စာချုပ်မူကြမ်းတင်ပြရန်)

☐ အခြားသဘောတူညီချက်ပုံစံတစ်မျိုးမျိုးဖြင့် ဆောင်ရွက်ခြင်း (စာချုပ်မူကြမ်းတင်ပြရန်)

၆။ အစုရှယ်ယာရှင်များစာရင်း

| စဉ် | အစုရှယ်ယာရှင်အမည် | နိုင်ငံသား | အစုရှယ်ယာပိုင်ဆိုင်မှု% |
|---|---|---|---|
| ၁ | ဒေါ်နန်းလိုင်ခမ်း | မြန်မာ | ၅၁ % |
| ၂ | ဦးကောင်းစံ | မြန်မာ | ၄၀ % |
| ၃ | ဦးမိုးဆန်းအောင် | မြန်မာ | ၉ % |

၇။ ကုမ္ပဏီဖွဲ့စည်းခြင်းနှင့်သက်ဆိုင်သော အချက်အလက်များ

(က) ခွင့်ပြုမတည်ငွေရင်း ................................ ကျပ် ၁,၀၀၀,၀၀၀,၀၀၀

(ခ) အစုရှယ်ယာအမျိုးအစား................................ Ordinary Share

(ဂ) အစုရှယ်ယာဝင်များကထည့်ဝင်မည့်အစုရှယ်ယာပမာဏ ....... ၁၀,၀၀၀ ရှယ်ယာ

**မှတ်ချက်။** သင်းဖွဲ့မှတ်တမ်း/သင်းဖွဲ့စည်းမျဉ်း သို့မဟုတ် ဖွဲ့စည်းပုံအခြေခံစည်းမျဉ်း ပူးတွဲ တင်ပြရန်

၈။ မတည်ငွေရင်းနှင့်သက်ဆိုင်သည့် အချက်အလက်များ-

| | ကျပ်(သန်းပေါင်း) | US $(သန်းပေါင်း) |
|---|---|---|
| (က) ပြည်တွင်းမှထည့်ဝင်မည့် မတည်ငွေရင်း ပမာဏ/ရာခိုင်နှုန်း | ၁၇၆,၄၉၆. ၄၇ | ............ |
| (ခ) နိုင်ငံခြားမှ ယူဆောင်လာမည့် မတည်ငွေရင်း ပမာဏ/ရာခိုင်နှုန်း | ၂၃,၈၁၃. ၅၃ | ၁၇. ၆၄ |
| စုစုပေါင်း | ၂၀၀,၃၁၀. ၀၀ (US $ ၁၇. ၆၄သန်းအပါအဝင်) | |

(ဂ) အဆိုပြုမတည်ငွေရင်းနှစ်အလိုက်ထည့်ဝင်မည့် အခြေအနေ/ယူဆောင်လာမည့်ကာလ

..........................................................................

(ဃ) ရင်းနှီးမြှုပ်နှံမှုတန်ဖိုး/ပမာဏ ကျပ် ၂၀၀,၃၁၀. ၀၀ သန်း (US $ ၁၇. ၆၄သန်းအပါအဝင်)

(င) ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့် သက်တမ်း ............ ၅၀ (နှစ်)

(စ) ရင်းနှီးမြှုပ်နှံမှုလုပ်ငန်း တည်ဆောက်မှုကာလ သို့မဟုတ် ပြင်ဆင်မှုကာလ ............ ၂ (နှစ်)

မှတ်ချက်။ အပိုဒ် ၈(င) နှင့် စပ်လျဉ်း၍ ထူးခြားသည့် အခြေအနေရှိပါက နောက်ဆက်တွဲဖြင့် ဖော်ပြပါရန်

၉။ နိုင်ငံခြားမှ ယူဆောင်တင်သွင်းလာမည့် မတည်ငွေရင်း၏ အသေးစိတ်စာရင်း-

| | နိုင်ငံခြားငွေ (သန်းပေါင်း) | ညီမျှသည့်ခန့်မှန်းငွေကျပ် (သန်းပေါင်း) |
|---|---|---|
| (က) နိုင်ငံခြားငွေ အမျိုးအစားနှင့် တန်ဖိုးပမာဏ) | ............ | ............ |
| (ခ) စက်ပစ္စည်းများ၊ စက်ကိရိယာများ စသည့်ပစ္စည်းတို့၏ တန်ဖိုးပမာဏ (အသေးစိတ်စာရင်းပူးတွဲတင်ပြရန်) | ၁၇. ၆၄ | ၂၃,၈၁၃. ၅၃ |
| (ဂ) ကနဦးကုန်ကြမ်းပစ္စည်းများနှင့် အခြားအလားတူပစ္စည်းများ၏ တန်ဖိုးပမာဏ (အသေးစိတ်စာရင်းပူးတွဲတင်ပြရန်) | ............ | ............ |
| (ဃ) လိုင်စင်၊ တီထွင်မှုပိုင်ဆိုင်ခွင့်၊ စက်မှုဒီဇိုင်း၊ ကုန်အမှတ်တံဆိပ်၊ | ............ | ............ |

မူပိုင်ခွင့်စသည့် အသိဉာဏ်
ဆိုင်ရာပစ္စည်းများကို တန်ဖိုး
ဖြတ်နိုင်သောအခွင့်အရေးများ၏
တန်ဖိုးပမာဏ

(င) ကျွမ်းကျင်မှုနည်းပညာရပ်များ၏ တန်ဖိုးပမာဏ .............................. ..............................

(စ) အခြား (ဥပမာ-ဆောက်လုပ်ရေး လုပ်ငန်းသုံးပစ္စည်းများ) .............................. ..............................

| | | |
|---|---|---|
| စုစုပေါင်း | ၁၇.၆၄ | ၂၃,၈၁၃.၅၇ |

မှတ်ချက်။ အပိုဒ် ၉ (ဃ) (င) တို့နှင့် စပ်လျဉ်း၍ အသုံးပြုခွင့် အထောက်အထားများ ပူးတွဲတင်ပြရန်။

၁၀။ ပြည်တွင်းမှထည့်ဝင်မည့် မတည်ငွေရင်း၏ အသေးစိတ်စာရင်း-

| | | ကျပ် (သန်းပေါင်း) |
|---|---|---|
| (က) | ငွေပမာဏ | ၁,၀၀၀.၀၀ |
| (ခ) | စက်ပစ္စည်းကိရိယာများတန်ဖိုးပမာဏ (အသေးစိတ်စာရင်းပူးတွဲတင်ပြရန်) | ၄,၇၇၈.၀၉ |
| (ဂ) | မြေ/အဆောက်အအုံတန်ဖိုး(သို့မဟုတ်)ငှားရမ်းခ | ၁၄,၃၁၀.၀၀ |
| (ဃ) | အဆောက်အအုံဆောက်လုပ်မှုကုန်ကျစရိတ် | ၁၄၈,၃၂၃.၂၆ |
| (င) | ပရိဘောဂနှင့် လုပ်ငန်းသုံးပစ္စည်းများ တန်ဖိုးပမာဏ (အသေးစိတ်စာရင်းပူးတွဲတင်ပြရန်) | ၅၀.၅၇ |
| (စ) | ကနဦးကုန်ကြမ်းပစ္စည်းတန်ဖိုးပမာဏ (အသေးစိတ်စာရင်းပူးတွဲတင်ပြရန်) | .............................. |
| (ဆ) | အခြား | ၈,၀၃၄.၅၁ |
| | စုစုပေါင်း | ၁၇၆,၄၉၆.၄၃ |

၁၁။ ချေးငွေနှင့်သက်ဆိုင်သည့် အချက်အလက်များ-

☐ ပြည်တွင်းချေးငွေ ............ ကျပ်

............ အမေရိကန်ဒေါ်လာ

☐ ပြည်ပချေးငွေ ............ အမေရိကန်ဒေါ်လာ

၁၂။ ဆောင်ရွက်မည့် စီးပွားရေးအဖွဲ့ အစည်းနှင့် သက်ဆိုင်သော အချက်အလက်များ-

(က) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်ဒေသ (များ)/ တည်နေရာ ရန်ကုန်တိုင်းဒေသကြီး၊ သန်လျင်မြို့နယ်၊ မြန်မာစီးပွားရေးရှင်းပိုင် သဘော်ာဖျက်စက်ရုံ (သီလဝါ)

(ခ) မြေ သို့မဟုတ် မြေနှင့်အဆောက်အအုံနေရာအမျိုးအစားနှင့် အကျယ်အဝန်းလိုအပ်ချက်

(၁) တည်နေရာ ရန်ကုန်တိုင်းဒေသကြီး၊ သန်လျင်မြို့နယ်၊ မြန်မာစီးပွားရေးရှင်းပိုင် သဘော်ာဖျက်စက်ရုံ (သီလဝါ)

(၂) မြေ/အဆောက်အအုံအကျယ်အဝန်း၊ အရေအတွက် မြေ-၁၆၈. ၅ ဧက/

(၃) လက်ရှိပိုင်ဆိုင်သူ ............

(ကက) အမည်/ကုမ္ပဏီအမည်/ဌာန ဦးသန့်ဆွေ(မြန်မာစီးပွားရေးကော်ပိုရေးရှင်းကိုယ်စား)

(ခခ) နိုင်ငံသားစိစစ်ရေးကတ်အမှတ် ၁၂/မဂတ(နိုင်) ၀၁၀၈၉၉

(ဂဂ) နေရပ်လိပ်စာ မြန်မာစီးပွားရေးကော်ပိုရေးရှင်း

(၄) မြေအမျိုးအစား လ/န-၃၉ ရရှိပြီးမြေ နှင့် စက်ရုံမြေ

(၅) မြေငှားဂရန် ခွင့်ပြုကာလ ၅၀ (နှစ်)

(၆) ငှားရမ်းမည့်ကာလ ၂၃. ၁၁. ၂၀၁၆ မှ ၂၃. ၁၁. ၂၀၆၆ ထိ ( ၅၀ ) နှစ်

(၇) ငှားရမ်းခနှုန်းထား ............

(ကက) မြေ 168.5 acre -US $ 67,400 Per month/ US $ 1.19 Per Square Meter

(ခခ) အဆောက်အအုံ ............

(၈) ရပ်ကွက် သီတာမြိုင်ရပ်ကွက်

(၉) မြို့နယ် သန်လျင်မြို့နယ်

(၁၀) ပြည်နယ်/တိုင်းဒေသကြီး ရန်ကုန်တိုင်းဒေသကြီး

(၁၁) ငှားရမ်းမည့်ပုဂ္ဂိုလ် ............

(ကက) အမည်/ကုမ္ပဏီအမည်/ဌာန ဦးမိုးဆန်းအောင်

(ခခ) အဖအမည် ဦးအောင်မျိုး

(ဂဂ) နိုင်ငံသား မြန်မာ

(ဃဃ) နိုင်ငံကူးလက်မှတ်အမှတ်/ နိုင်ငံသားစိစစ်ရေးကတ်အမှတ် ၇/ဘအန (နိုင်) ၀၂၅၀၇၂

(ငင) နေရပ်လိပ်စာ ......အမှတ်(၈၀/စီ)၊ ကမ္ဘောဇလမ်းသွယ်(၂)၊ ရွှေတောင်ကြား(၁)ရပ်ကွက်၊ဗဟန်းမြို့နယ်၊ ရန်ကုန်မြို့။......

(ဂ) ဆောက်လုပ်မည့်အဆောက်အအုံလိုအပ်ချက်

(၁) အဆောက်အအုံအမျိုးအစား/အရေအတွက် ......

(၂) အကျယ်အဝန်း ......

(ဃ) နှစ်စဉ်ထုတ်လုပ်မည့် ကုန်ပစ္စည်း/ဝန်ဆောင်မှု ......1,620,000,000 Liters......

(င) နှစ်စဉ် လျှပ်စစ်ဓါတ်အားလိုအပ်ချက် ......

(စ) နှစ်စဉ် ရေလိုအပ်ချက် ......

မှတ်ချက်။ အပိုဒ် ၁၂ (ခ) နှင့် စပ်လျဉ်း၍ အောက်ပါအချက်များ ပူးတွဲတင်ပြရန်-

(၁) မြေပိုင်ဆိုင်မှု/မြေဂရန်အထောက်အထား (စက်မှုဇုန်မှ အပ) နှင့် မြေပုံ(၂) မြေငှားစာချုပ် (မူကြမ်း)

၁၃။ ငွေကြေးပိုင်ဆိုင်မှုနှင့် ပတ်သက်၍ အသေးစိတ်ဖော်ပြချက်-

(က) အမည်/ကုမ္ပဏီအမည် ......BRIGHTER ENERGY CO.,LTD......

(ခ) နိုင်ငံသားစိစစ်ရေးကတ်အမှတ်/နိုင်ငံကူးလက်မှတ်အမှတ် ......

(ဂ) ဘဏ်စာရင်းအမှတ် KBZ-05710905702755501 (USD),0291030293416901 (MMK)

(မိခင်နိုင်ငံရှိ ဘဏ်ထောက်ခံချက် သို့မဟုတ် မိခင်ကုမ္ပဏီ၏စာရင်းစစ်ပြီးသည့်နှစ်ချုပ်စာရင်းပူးတွဲတင်ပြရန်)

၁၄။ ဆောင်ရွက်မည့် စီးပွားရေးအဖွဲ့အစည်းတွင် လိုအပ်မည့် ဝန်ထမ်းများစာရင်း

| စဉ် | အဆင့်အတန်း | မြန်မာနိုင်ငံသား | နိုင်ငံခြားသား | စုစုပေါင်း |
|---|---|---|---|---|
| (က) | အကြီးတန်းစီမံခန့်ခွဲမှု (မန်နေဂျာများ၊ အဆင့်မြင့်အရာရှိများ) | ၅ | | ၅ |
| (ခ) | အခြားအဆင့်စီမံခန့်ခွဲမှု (အကြီးတန်းစီမံခန့်ခွဲမှုမှအပ) | ၅ | | ၅ |
| (ဂ) | သက်မွေးဝမ်းကျောင်းပညာရှင်များ | ၁၃ | | ၁၃ |
| (ဃ) | နည်းပညာနှင့်ဆက်စပ်သည့်သက်မွေးပညာရှင် | | | |
| (င) | အကြံပေး | | | |
| (စ) | ကျွမ်းကျင်လုပ်သား | ၃၆ | | ၃၆ |
| (ဆ) | အခြေခံလုပ်သား | ၂၀ | | ၂၀ |
| | စုစုပေါင်း | ၇၉ | | ၇၉ |

မှတ်ချက်။ အောက်ဖော်ပြပါ ဖော်ပြချက်များ ပူးတွဲဖော်ပြရန်

(၁) လုပ်သားများ၏ လူမှုဖူလုံရေး၊ သက်သာချောင်ချိမှုဆောင်ရွက်မည့် အစီအမံများ

(၂) ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းပြုလုပ်မည့် အစီအမံများ

၁၅။ အဆိုပြုချက်နှင့်အတူ အောက်ဖော်ပြပါ လျှောက်ထားလွှာများကို တင်ပြလျှောက်ထားခြင်း ရှိ/မရှိ ဖော်ပြရန်-

☐ မြေအသုံးပြုခွင့်လျှောက်ထားလွှာ

☐ အခွန်ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်လျှောက်ထားလွှာ

၁၆။ အဆိုပြုရင်းနှီးမြှုပ်နှံမှုလုပ်ငန်း အကျဉ်းချုပ်အား နောက်ဆက်တွဲဖြင့် ဖော်ပြရန်။

လျှောက်ထားသူလက်မှတ်..........................................

အမည်.......ဦးမိုးဆန်းအောင်.......

ရာထူး .......မန်နေးဂျင်းဒါရိုက်တာ.......

ဌာန/ကုမ္ပဏီတံဆိပ် .......Brighter Energy Co.,Ltd.......

ရက်စွဲ-

အဆိုပြုရင်းနှီးမြှုပ်နှံမှုလုပ်ငန်းအကျဉ်းချုပ် (နည်းဥပဒေ ၃၈)

၁။ ရင်းနှီးမြှုပ်နှံမှုတွင် တိုက်ရိုက်ဖြစ်စေ၊ သွယ်ဝိုက်၍ဖြစ်စေ အကျိုးစီးပွား သိသာထင်ရှားစွာ ပါဝင်သော အခြားပုဂ္ဂိုလ်များဖော်ပြရန်-

(က) ရင်းနှီးမြှုပ်နှံသူမှ ရရှိမည့် အမြတ်ငွေ၏ ၁၀% နှင့် အထက်ကို ပိုင်ဆိုင်ခွင့်ရှိသည့် သို့မဟုတ် ထိန်းချုပ်ခွင့်ရှိသည့် လုပ်ငန်း၏

(၁) အမည် ဦးမိုးဆန်းအောင်

(၂) ဆက်သွယ်ရမည့်လိပ်စာ အမှတ် (၈၀/စီ)၊ကမ္ဘာ့ဇလမ်းသွယ်(၂)၊ရွှေတောင်ကြား (၁)ရပ်ကွက်၊ဗဟန်းမြို့နယ်၊ ရန်ကုန်မြို့

(၃) မှတ်ပုံတင်အမှတ် ၃/ဘအန (နိုင်) ၀၂၅၀၇၂

(တစ်ဦး ထက်ပိုပါက နောက်ဆက်တွဲဖြင့် ဖော်ပြရန်)

(ခ) ခွင့်ပြုမည့် ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းဆောင်ရွက်ရာတွင် တိုက်ရိုက်ပါဝင်သည့် လက်အောက်ခံ ကုမ္ပဏီများရှိလျှင် အဆိုပါကုမ္ပဏီများ၏အမည်ကို ဖော်ပြရန်-

(၁) -

(၂) -

(၃) -

၂။ ရင်းနှီးမြှုပ်နှံမှု၏ အဓိကတည်နေရာ သို့မဟုတ် တည်နေရာများ ရန်ကုန်တိုင်းဒေသကြီး၊ တောင်ပိုင်းခရိုင်၊ ကျောက်မြို့နယ်၊ သီတာမြိုင်ရပ်ကွက်၊မြန်မာစီးပွား ရေးရှင်းပိုင် သဘော်ာဖျက်စက်ရုံ (သီလဝါ)

၃။ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းပြုလုပ်မည့်ကဏ္ဍနှင့် ဆောင်ရွက်မည့်စီးပွားရေးလုပ်ငန်းများ ဖော်ပြချက် ဓါတ်ဆီ၊ဒီဇယ်ဆီနှင့် (LPG)များ သိုလှောင်ရောင်းချခြင်းလုပ်ငန်း

၄။ အဆိုပြုထားသော ရင်းနှီးမြှုပ်နှံမှုပမာဏ (မြန်မာကျပ် နှင့် အမေရိကန်ဒေါ်လာ တို့ဖြင့် ဖော်ပြရန်) ကျပ် ၂၀၀,၃၁၀. ၀၀ သန်း (US$ ၁၇. ၆၄သန်းအပါအဝင်)

၅။ ရင်းနှီးမြှုပ်နှံမှု အကောင်အထည်ဖော်မည့် ခန့်မှန်းအချိန်ဇယား အပါအဝင်အစီအစဉ်ဖော်ပြချက်-

(က) တည်ဆောက်ရေးကာလသို့မဟုတ် ပြင်ဆင်မှုကာလ (နှစ်၊ လတို့ဖြင့်ဖော်ပြရန်) ---------- ၂ (နှစ်) ----------

(ခ) စီးပွားဖြစ်စတင်မည့်ကာလ (နှစ်၊ လတို့ဖြင့်ဖော်ပြရန်) ----------

၆။ ခန့်ထားမည့် အလုပ်သမားဦးရေ-

(က) ပြည်တွင်း ---------- ၇၉ (ဦး) ----------

(ခ) ပြည်ပ (ပညာရှင်/ကျွမ်းကျင်သူ) ----------

၇။ ပြည်ပမှ ပြည်တွင်းသို့ ယူဆောင်လာမည့် မတည် ရင်းနှီးမြှုပ်နှံမှုများတွင် ငွေသားဖြင့် ယူဆောင်မှု ပမာဏ (Capital in-Cash)၊ ရင်းနှီးပစ္စည်း အဖြစ် ယူဆောင်လာမည့် ရင်းနှီးငွေပမာဏ (Capital in-Kinds) တို့အား တိကျစွာ ခွဲခြားသတ်မှတ် ဖော်ပြပေးရန် (မြန်မာကျပ် နှင့် အမေရိကန်ဒေါ်လာတို့ဖြင့် ဖော်ပြရန်)-

(က) ငွေသားဖြင့် ယူဆောင်မှုပမာဏ ----------

(ခ) ပစ္စည်းအဖြစ်ယူဆောင်လာမည့် ရင်းနှီးငွေပမာဏ ---------- ကျပ်-၂၃,၈၁၃. ၅၇ သန်း/US $ ၁၇. ၆၄ သန်း ----------

**မှတ်ချက်။** ရင်းနှီးမြှုပ်နှံသူသည် ရင်းနှီးမြှုပ်နှံမှုနှင့် သက်ဆိုင်သော လျှို့ဝှက်ထိန်းသိမ်းရမည့် သတင်းအချက်အလက်များအား ထုတ်ပြန်ခြင်းမှ ရှောင်ကြဉ်ရန် ကော်မရှင်ထံ တင်ပြတောင်းဆိုနိုင်သည်။



**ကတိဝန်ခံချက်**

အထက်ဖော်ပြပါ လျှောက်ထားသူမှပေးအပ်သည့် အချက်အလက်များအားလုံးသည် မှန်ကန်မှုရှိပါကြောင်း အာမခံပါသည်။

ဤအဆိုပြုချက်တွင် ခွင့်ပြုမိန့်ထုတ်ပေးရန်အတွက် ကော်မရှင်မှ စိစစ်ရာ၌ လိုအပ်သည့် အချက်အလက်များကို လျှောက်ထားသူက ပေးအပ်ရန်ပျက်ကွက်ပါက အဆိုပြုချက်ကို ငြင်းပယ်ခြင်း သို့မဟုတ် စိစစ်ရာ၌ မလိုလားအပ်သည့် နှောင့်နှေးကြန့်ကြာခြင်းတို့ ဖြစ်ပေါ်နိုင်ကြောင်း ကောင်းစွာသဘောပေါက် နားလည်ပါသည်။

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ချမှတ်မည့် စည်းမျဉ်းစည်းကမ်းများကိုလည်း လိုက်နာမည် ဖြစ်ကြောင်း ဝန်ခံကတိပြုအပ်ပါသည်။

လျှောက်ထားသူလက်မှတ် ..................................................

အမည် .......... ဦးမိုးဆန်းအောင် ..........

ရာထူး .......... မန်နေးဂျင်းဒါရိုက်တာ ..........

ဌာန/ကုမ္ပဏီတံဆိပ် .......... Brighter Energy Co.,Ltd ..........

မြေစာရင်းပုံစံ – ၁၀၅ 2016 173223

သက်သေခံ

မှန်ကန်ကြောင်း ——— သောလက်ရှိမြေပုံတွင် ယခုနှစ်အသုံးပြုသော ဦးပိုင်မြေပုံ

သက်သေမခံ လက်ခံရေးကူးရန်ပုံစံ

DALMS

[illegible]

| | |
|---|---|
| တိုင်းဒေသကြီး/ပြည်နယ် | ရန်ကုန် |
| ခရိုင် | တောင်ပိုင်း |
| မြို့နယ်/မြို့နယ်ခွဲ | ကျောက်တန်း |
| ရပ်ကွက်/ကျေးရွာအုပ်စု | [illegible] |
| ကွင်း/အကွက်အမှတ်နှင့်အမည် | [illegible] |
| ဦးပိုင်အမှတ်/မြေကွက်အမှတ် | [illegible] |

ငွေ ၃၀၀ ကျပ် K 300

| ဦးပိုင်အမှတ် | ~~အခွန်ငွေဆောင်ရသူ/ပိုင်ရှင်/ဂရန်ရှင်/အငှားဂရန်ရှင်အမည်~~ | ပိုင်ဆိုင်ခွင့် | မြေမျိုးနှင့်အတန်း | ဧရိယာ (ဧက) | မှတ်ချက် |
|---|---|---|---|---|---|
| [illegible] | – | [illegible] | [illegible] | [illegible] | [illegible] |
| ၂၂ | – | " | [illegible] | [illegible] | |
| ၂၃ | . | " | | [illegible] | |
| ၁၈ | ... | " | | [illegible] | |
| | | | | [illegible] | |

| ရေးကူးပေးသည့်အကြောင်းအရာ | [illegible] |
|---|---|

(အထက်ဖော်ပြပါအကြောင်းအရာအတွက်သာ အသုံးပြုခွင့်ရှိသည်)

လျှောက်ထားသူအမည် – [illegible]

လျှောက်လွှာတင်သည့်နေ့စွဲ – [illegible]

လျှောက်ထားသူသို့ထုတ်ပေးသည့်နေ့စွဲ – [illegible]

ယခုအထက်တွင်ပြဆိုသောမြေပုံမှာ မှန်ကန်သေချာစွာ ရေးကူးထားသော(၂၀၁၇-၁၈ )ခုနှစ် အတွက် နောက်ဆက်တွဲတိုင်းခြင်း မြေပုံဖြစ်ကြောင်း သက်သေခံလက်မှတ် ရေးထိုးပါသည်။

အမှုတွဲထိန်း/မြေတိုင်းစာရေးလက်မှတ် - [signature]

နေ့စွဲ - [illegible]

ရုံးတံဆိပ်

တိုက်ဆိုင်စစ်ဆေးပြီး မှန်ကန်ပါသည်။

လက်ထောက်ဦးစီးမှူးလက်မှတ် - [signature]

နေ့စွဲ - [illegible]



# မြေအသုံးပြုခွင့်လျှောက်ထားလွှာ

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ် ၊
ရက်စွဲ ၂၀ ခုနှစ်၊ လ ရက်

အကြောင်းအရာ။ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းဆောင်ရွက်ရန် မြေငှားရမ်းခွင့် သို့မဟုတ် မြေ အသုံးပြုခွင့် လျှောက်ထားခြင်း။

ကျွန်တော်/ကျွန်မသည် ရင်းနှီးမြှုပ်နှံမှုလုပ်ငန်း ဆောင်ရွက်ရန်အတွက် မြေငှားရမ်းခွင့် သို့မဟုတ် မြေအသုံးပြုခွင့်ကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု နည်းဥပဒေ ၁၁၆ နှင့်အညီ အောက်ပါ အချက်အလက်များကို ဖော်ပြ၍ လျှောက်ထားအပ်ပါသည်-

၁။ မြေ/ အဆောက်အအုံ၏ ပိုင်ရှင်နှင့်စပ်လျဉ်းသောအချက်အလက်များ

(က) ပိုင်ရှင်အမည်/အဖွဲ့အစည်း ကာကွယ်ရေးဦးစီးချုပ်ရုံး (ကြည်း)၊ စစ်ထောက်ချုပ်ရုံး၊ မြန်မာစီးပွားရေးကော်ပိုရေးရှင်း

(ခ) ဧရိယာအကျယ်အဝန်း ၁၆၈. ၅၀ (ဧက)

(ဂ) တည်နေရာ ရန်ကုန်တိုင်းဒေသကြီး၊ကျောက်တန်းမြို့နယ်၊သီတာမြိုင်ရပ်ကွက်။မြန်မာစီးပွားရေးကော်ပိုရေးရှင်း၊သင်္ဘောဖျက်စက်ရုံမြေ

(ဃ) မူလမြေအသုံးပြုခွင့်ရရှိထားသောကာလ(မြေငှားဂရမ်သက်တမ်း) ၅၀ (နှစ်)

(င) နှစ်ရှည်ငှားရမ်းခများကိုမတည်ရင်းနှီးငွေအဖြစ်ဖော်ပြခဲ့ခြင်းရှိ-မရှိ (ဖော်ပြခဲ့ခြင်းမရှိပါ)

(စ) ကနဦးငှားရမ်းသူကသဘောတူ/မတူ သဘောတူပါသည်

(ဆ) မြေအမျိုးအစား မြန်မာ့စီးပွားရေးကော်ပိုရေးရှင်းသင်္ဘောဖျက်စက်ရုံမြေ

၂။ အငှားချထားသူ

(က) အမည်/ကုမ္ပဏီအမည်/ဌာန/အဖွဲ့အစည်း ဦးသန့်ဆွေ (ဦးဆောင်ညွှန်ကြားရေးမှူး)

(ခ) နိုင်ငံသားစိစစ်ရေးကတ်အမှတ် ၁၂/မဂဒ (နိုင်) ၀၁၀၈၉၉

(ဂ) နေရပ်လိပ်စာ မြန်မာစီးပွားရေးကော်ပိုရေးရှင်း

၃။ အငှားချထားခြင်းခံရသူ

(က) အမည်/ကုမ္ပဏီအမည်/ဌာန/အဖွဲ့အစည်း ဦးမိုးဆန်းအောင်

(ခ) နိုင်ငံသားစိစစ်ရေးကတ်အမှတ်/နိုင်ငံကူးလက်မှတ်အမှတ် ၃/ဘအန (နိုင်)၀၂၅၀၇၂

(ဂ) နိုင်ငံသား မြန်မာ

(ဃ) နေရပ်လိပ်စာ အမှတ် (၈၀/စီ)၊မဗ္ဗောဇလမ်းသွယ် (၂)၊ ရွှေတောင်ကြား(၁)ရပ်ကွက်၊ ဗဟန်းမြို့နယ်၊ ရန်ကုန်မြို့။

၄။ ငှားရမ်းလိုသည့်မြေနှင့်စပ်လျဉ်းသည့်အချက်အလက်များ

(က) ရင်းနှီးမြှုပ်နှံသည့်လုပ်ငန်းအမျိုးအစား အဆင့်မြင့်ဓါတ်ဆီဒီဇယ်ဆီများ သိုလှောင်ရောင်းချသည့်လုပ်ငန်း

(ခ) ရင်းနှီးမြှုပ်နှံသည့်အရပ်ဒေသ(များ)၊ ရန်ကုန်တိုင်းဒေသကြီး၊သန်လျင်မြို့နယ်၊မြန်မာစီးပွားရေး ကော်ပိုရေးရှင်း၊သင်္ဘောဖျက်စက်ရုံ(သီလဝါ)

(ဂ) တည်နေရာ (ရပ်ကွက်၊ မြို့နယ်၊ ပြည်နယ်/တိုင်းဒေသကြီး) ရန်ကုန်တိုင်းဒေသကြီး၊ကျောက်တန်းမြို့နယ်၊သီတာမြိုင်ရပ်ကွက်၊မြန်မာစီးပွားရေး ကော်ပိုရေးရှင်း၊သင်္ဘောဖျက်စက်ရုံ(သီလဝါ)

(ဃ) မြေဧရိယာအကျယ်အဝန်း ၁၆၈.၅၀ (ဧက)

(င) အဆောက်အအုံအရွယ်အစား/အရေအတွက်

(စ) အဆောက်အအုံတန်ဖိုး

၅။ မြေပိုင်ဆိုင်မှု/မြေဂရန်အထောက်အထား(စက်မှုဇုန်မှ အပ)၊မြေပုံနှင့် မြေငှားစာချုပ်(မူကြမ်း) တင်ပြရန်။

၆။ မြေငှားရမ်းခြင်းနှင့်စပ်လျဉ်း၍ အောက်ဖော်ပြပါပုဂ္ဂိုလ်ထံမှ တစ်ဆင့်ငှားရမ်းထားခြင်း ရှိ-မရှိ-

☐ နိုင်ငံတော်၏ဥပဒေများနှင့်အညီအစိုးရဌာန၊ အစိုးရအဖွဲ့အစည်းထံမှ နိုင်ငံတော် ပိုင်မြေ သို့မဟုတ် အဆောက်အအုံအသုံးပြုခွင့်အား ယခင်ကပင် ရရှိထားသောပုဂ္ဂိုလ်၊

☐ အစိုးရဌာန၊ အစိုးရအဖွဲ့အစည်း၏ ခွင့်ပြုချက်နှင့်အညီနိုင်ငံတော်ပိုင်မြေသို့မဟုတ် အဆောက်အအုံအားတစ်ဆင့်ငှားယူရန် သို့မဟုတ် တစ်ဆင့်လိုင်စင် ရယူရန်အခွင့်ရှိ သည့် ပုဂ္ဂိုလ်။

၇။ မြေ/အဆောက်အအုံ ငှားရမ်းခနှုန်း(တစ်နှစ်လျှင်တစ်စတုရန်းမီတာအတွက် ) One Square meter - US $ 1.19 Per Year

၈။ မြေအသုံးချမှုပရီမီယံကြေး(Land Use Premium - LUP ) (အစိုးရဌာန/ အစိုးရအဖွဲ့ အစည်းပိုင် မြေငှားရမ်းခြင်းဖြစ်ပါကအငှားချထားခြင်းခံရသူထံမှငွေသားဖြင့် LUP ကောင်းခံပါမည်။)

တစ်ဧကနှုန်း

၉။ မူလမြေငှားရမ်းခွင့်ရှိသူသို့မဟုတ်မြေအသုံးပြုခွင့်ရသူမှ ငှားရမ်းရန်သဘောတူ/မတူ သဘောတူပါသည်။

၁၀။ လျှောက်ထားသည့် မြေ သို့မဟုတ် အဆောက်အအုံ ငှားရမ်း/ အသုံးပြုခွင့်သက်တမ်း နှစ်(၅၀)

၁၁။ စက်မှုဇုန်၊ ဟိုတယ်ဇုန်၊ ကုန်သွယ်ရေးဇုန် အစရှိသည့် သက်ဆိုင်ရာ လုပ်ငန်းဇုန်ဧရိယာ မြန်မာစီးပွားရေးကော်ပိုရေးရှင်း

အတွင်းရှိ မြေ ဟုတ်/မဟုတ် (ဖုန်ကိုဖော်ပြရန်)

လျှောက်ထားသူလက်မှတ် ..............................................

အမည် ..........ဦးမိုးဆန်းအောင်..........

ရာထူး ..........Managing Director..........

ဌာန/ကုမ္ပဏီတံဆိပ် ..........Brighter Energy Co.,Ltd..........

နောက်ဆက်တွဲဇယား(၁)

**အလင်းတန်း စွမ်းအင် ကုမ္ပဏီလီမိတက်**

**ရင်းနှီးမြှုပ်နှံမှုမှရရှိမည့် အမြတ်ငွေ၏ ၁၀% နှင့်အထက်ကိုပိုင်ဆိုင်ခွင့်ရှိသည့် သို့မဟုတ် ထိန်းချုပ်ခွင့်ရှိသည့်လုပ်ငန်း၏အစုရှယ်ယာရှင်များမှာ အောက်ပါအတိုင်းဖြစ်ပါသည်။**

| စဉ် | အမည် | နိုင်ငံသားနှင့် အမျိုးသားမှတ်ပုံတင်အမှတ် | နေရပ်လိပ်စာ |
|---|---|---|---|
| ၁ | ဒေါ်နန်းလိုင်းခမ်း | မြန်မာ<br>၁၃/တကန (နိုင်) ၁၉၇၆၁၇ | အမှတ်-(၆၁၅/၂)၊ပြည်လမ်း၊အမှတ်(၂)ရပ်ကွက်၊ကမာရွတ်မြို့နယ်၊ ရန်ကုန်။ |
| ၂ | ဦးကောင်းစံ | မြန်မာ<br>၁၂/အစန (နိုင်) ၁၈၃၇၅၂ | အမှတ် (၃၄၁)၊ပြည်လမ်း၊မုန့်လက်ဆောင်းကုန်း (တောင်)ရပ်ကွက်၊ စမ်းချောင်းမြို့နယ်၊ရန်ကုန်မြို့။ |
| ၃ | ဦးမိုးဆန်းအောင် | မြန်မာ<br>၃/ဘအန (နိုင်) ၀၂၅၀၇၂ | အမှတ် (၈၀/ဗီ)၊ကမ္ဘာအေးလမ်းသွယ်(၂)၊ရွှေတောင်ကြား (၁)ရပ်ကွက် ဗဟန်းမြို့နယ်၊ရန်ကုန်။ |




***NOTARIAL TRANSLATION***

*(From Myanmar Version)*

(STATE EMBLEM)

Land Form (105)

**CERTIFIED COPY OF MAP HOLDING IN THE CURRENT YEAR**

Region/State: **Yangon**

District: **Southern**

Township: **Kyauktan**

Ward: **Thidar Myaing**

Kwin/Block No. & Name: **607 Grant**

**611 Phayar Ngoketo Kwin**

**612 Gway Pin Kwin**

Holding No./Plot No.: **1/D, 22, 21, 18**

| Holding No. | Assessee | Possession | Type of Land | Area(Acre) | Remarks |
|---|---|---|---|---|---|
| **1/D**<br>22<br>21<br>18 | -<br>-<br>-<br>- | Government<br>"<br>"<br>" | Farm<br>To use for Myanma Economic Corporation, Ship Destroy Factory Land. | 124.38 acre<br>23.80<br>7.98<br>12.34<br>168.50 | Permitted land, Yangon Region Peace & Development Council letter No. 283/3-3/TaYaKa on (4.10.2006), under La/Na-39 Application Area (168.50) acre of (660.00) acre A-mark. |

Purpose of Application: To submit for construct Buildings and Storage Tanks
Name of Application: **U THANT ZIN AUNG** (Myanma Economic Corporation, Ship Destroy Factory, Thilawar
Date of Application: 9.2.2018
Date of Delivered: 16.2.2018
Certified that the above Map is truly and correctly copied from the map holding in the current year (2017-2018).

Round Seal of
Township Land Records Dept., Kyauktan Township.

Sd/-xxx
Surveyor (4),
Farm Land Supervision & Accounts Dept.
Kyauktan Township.

Sd/-xxx
Deputy Head Officer
Farm Land Supervision & Accounts Dept.
Kyauktan Township

Sd/-xxx
Staff Officer
Farm Land Supervision & Accounts Dept., Kyauktan Township



558 A1?

15(Map-Reports)



## *NOTARIAL TRANSLATION*

*(From Myanmar Version)*

### HISTORY OF LAND HOLDING

Land Record Form-106

District: Southern Yangon, Township: Kyauktan, Survey Block No.1-Thilawar,
Kwin/Block No. & Name: 607-611-612, Grant Kwin-Phayar Ngoketo Kwin-Gway Pin Kwin

| Date (1) | Holding No. (2) | Name & Address of Grant holder Lessee (3) | Possession (4) | Type of Land (5) | Area (Acre) (6) | Land Revenue Fees (7) | Description of transfer (8) | Remark (9) |
|---|---|---|---|---|---|---|---|---|
| 2017/18<br>607<br>611<br>"<br>612 | 1/D<br>22<br>21<br>18 | - | Government<br>"<br>"<br>" | Farm (To use for Ship Destroy Factory Land, Myanma Economic Coporation, La/Na-39) | 124.38<br>23.80<br>7.98<br>12.34<br>168.50 | - | Permitted land, Yangon Region Peace & Development Council letter No. 283/3-3/TaYaKa on (4.10.2006), under La/Na-39 Application Area (168.50) acre of (660.00) acre A-mark. | |

Name of Applicant: U THANT ZIN AUNG(Myanma Economic Corporation, Ship Destroy Factory, Thilawar

Date of Application: 9.2.2018

Date of Delivered: 16.2.2018

Purpose of Application: To submit for construct Buildings and Storage Tanks

Certified that the above Map is truly and correctly copied from the map holding in the current year 2017-2018.

Sd/-xxx
Surveyor (4)
Farm Land Supervision & Accounts Dept.
Kyauktan Township.
Date: 15.2.2018

Sd/-xxx
Dy. Head Officer
Farm Land Supervision & Accounts Dept.
Kyauktan Township.
Date: 15.2.2018

AUTHENTICATED ... correct ENGLISH Translation from MYANMAR Version.

SOE MOE HTUN

1 FEB 2018

No: 559A 121218

ZL Rec/17-(22)






ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

ကာကွယ်ရေးဦးစီးချုပ်ရုံး (ကြည်း)

စစ်ထောက်ချုပ်ရုံး

မြန်မာစီးပွားရေးကော်ပိုရေးရှင်း

စာအမှတ်၊ ၁၀ / ၁၀ /၄၃/ မစက (စီမံကိန်း)

ရက်စွဲ ၊ ၂၀၁၈ခုနှစ်၊ ဇန်နဝါရီလ၊ ၃၁ ရက်။

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ ။ **ရန်ကုန်တိုင်းဒေသကြီး၊ သန်လျင်မြို့နယ်၊ မြန်မာစီးပွားရေးကော်ပိုရေးရှင်းပိုင် သဘော်ာဖျက်စက်ရုံ (သီလဝါ)ရှိမြေ (၁၆၈.၅) ဧကအား B.O.T စနစ်ဖြင့် Brighter Energy Co.Ltd. (KBZ Group of Companies Limited)သို့ ငှားရမ်း၍ ဓာတ်ဆီ၊ ဒီဇယ်ဆီနှင့် LPG များ သိုလှောင်ခြင်းလုပ်ငန်းများ တည်ဆောက်လုပ်ကိုင်ခွင့်ပြုနိုင်ပါရန် တင်ပြခြင်း**

၁။ ရန်ကုန်တိုင်းဒေသကြီး၊ သန်လျင်မြို့နယ်၊ မြန်မာစီးပွားရေးကော်ပိုရေးရှင်းပိုင် သဘော်ာဖျက်စက်ရုံ (သီလဝါ)ရှိ မြေ(၁၆၈.၅) ဧကအား B.O.T စနစ်ဖြင့် Brighter Energy Co.Ltd. (KBZ Group of Companies Limited)သို့ ငှားရမ်း၍ ဓာတ်ဆီ၊ ဒီဇယ်ဆီနှင့် LPG များ သိုလှောင်ခြင်းလုပ်ငန်းများ တည်ဆောက်လုပ်ကိုင်ခွင့်ပြုနိုင်ပါရန် အောက်ပါအတိုင်း တင်ပြလာပါသည်-

(က) **ကုမ္ပဏီအမည်။** Brighter Energy Co., Ltd. (KBZ Group of Companies Limited

(ခ) **အဆိုပြုမြေ။** ရန်ကုန်တိုင်းဒေသကြီး၊ သန်လျင်မြို့နယ်၊ မြန်မာစီးပွားရေး ကော်ပိုရေးရှင်းပိုင် သဘော်ဖျက်စက်ရုံ (သီလဝါ)ရှိ မြေ (၁၆၈.၅) ဧက

(ဂ) **ဆောင်ရွက်မည့်လုပ်ငန်း။** ဓါတ်ဆီ၊ ဒီဇယ်ဆီနှင့် LPG များ သိုလှောင်ခြင်း လုပ်ငန်း။

(ဃ) **ရင်းနှီးမြှုပ်နှံမှုပမာဏ။** အမေရိကန်ဒေါ်လာ ၅၀,၀၀၀,၀၀၀ (အမေရိကန် ဒေါ်လာ သန်းငါးဆယ်တိတိ)။

(င) **ငှားရမ်းလိုသည့်နှစ်။** (၅၀ + ၁၀ + ၁၀ )နှစ် (၇၀) (B.O.T)

(စ) **အကျိုးအမြတ်ပေးသွင်းခြင်း**

(၁) **ပရီမီယံပေးသွင်းခြင်း။** မြေ (၁၆၈.၅)ဧကအတွက် မြေအသုံးချ ပရီမီယံ ကြေးအဖြစ် (၁)ဧကလျှင် အမေရိကန်ဒေါ်လာ ၁၀,၀၀၀ (အမေရိကန် ဒေါ်လာ တစ်သောင်းတိတိ)နှုန်းဖြင့် အမေရိကန်ဒေါ်လာ ၁,၆၈၅,၀၀၀ (အမေရိကန်ဒေါ်လာ တစ်သန်း ခြောက်သိန်း ရှစ်သောင်း ငါးထောင် တိတိ)ကို စာချုပ်လက်မှတ်ရေးထိုးသည့် နေ့မှစ၍ (၁)လအတွင်း လုပ်ငန်းလုပ်ကိုင်ခွင့်ရရှိသူက လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ၏ ဘဏ် ငွေစာရင်းသို့ ပေးသွင်းရမည်။

(၂) **မြေငှားရမ်းခပေးသွင်းခြင်း။** နှစ်စဉ်မြေငှားရမ်းခအဖြစ် တည်ဆောက် ရေးကာလ (၂၄)လ စေ့ရောက်သည့်နေ့ (သို့မဟုတ်)စီးပွားဖြစ်လုပ်ငန်း စတင်သည့်နေ့၊ ထိုနှစ်ရက်အနက် စောရာရက်မှစတင်ကာ မြေ (၁၆၈.၅) ဧကအတွက် တစ်ဧကလျှင် အမေရိကန်ဒေါ်လာ (၄၈၀၀)နှုန်းဖြင့် ကျသင့်သော အမေရိကန်ဒေါ်လာ (၈၀၈,၈၀၀) (အမေရိကန်ဒေါ်လာ ရှစ်သိန်း ရှစ်ထောင် ရှစ်ရာတိတိ)ကို ပေးချေရန် စေ့ရောက်သည့်ရက်မှ ရက်ပေါင်း (၃၀)အတွင်း ကြိုတင်ပေးသွင်းရမည်။

၂။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ နှစ်ရှည် (၅၀+၁၀+၁၀)နှစ် (၇၀) B.O.T စနစ်ဖြင့် Brighter Energy Co., Ltd. သို့ မြေငှားရမ်းခြင်းအတွက် ပြင်ဆင်ထားရှိသည့် B.O.T စာချုပ်၊ မြေငှား စာချုပ်တို့နှင့် ပတ်သက်၍ ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ အကြံပြုချက်များ ရရှိထားပြီး ဖြစ်ပါ သည်။

၃။ သို့ဖြစ်ပါ၍ ရန်ကုန်တိုင်းဒေသကြီး၊ သန်လျင်မြို့နယ်၊ မြန်မာစီးပွားရေးကော်ပိုရေးရှင်း ပိုင် သဘော်ဖျက်စက်ရုံ (သီလဝါ)ရှိမြေ (၁၆၈.၅)ဧကအား B.O.Tစနစ်ဖြင့် Brighter Energy Co., Ltd. (KBZ Group of Companies Limited)သို့ ငှားရမ်း၍ ဓါတ်ဆီ၊ ဒီဇယ်နှင့် LPG များ သိုလှောင်ခြင်းလုပ်ငန်းများ တည်ဆောက်လုပ်ကိုင်ရန်အတွက် တင်ပြလာသည့် ရင်းနှီးမြှုပ်နှံမှု အချက်အလက်များအပေါ် မြန်မာနိုင်ငံရင်နှီးမြှုပ်နှံမှုကော်မရှင်အနေဖြင့် လိုအပ်သလို စိစစ် ခွင့်ပြုနိုင်ပါရန် တင်ပြအပ်ပါသည်။

ဦးဆောင်ညွှန်ကြားရေးမှူး (ကိုယ်စား)
ဒေါက်တာမြင့်သန်း
B.Sc(DSA)MA(Business Law)(Credit)LL.D(UK)
အထွေထွေမန်နေဂျာ
စီမံကိန်းဌာန
မြန်မာ့စီးပွားရေးကော်ပိုရေးရှင်း

မိတ္တူကို

Brighter Energy Co.Ltd. (KBZ Group of Companies Limited)

ရုံးလက်ခံ/မျှော

မြန်မာစီးပွားရေးကော်ပိုရေးရှင်း

နှင့်

Brighter Energy Co.,Ltd.(KBZ Group)

တို့အကြား

ရန်ကုန်တိုင်းဒေသကြီး၊ သန်လျင်မြို့နယ်၊မြန်မာစီးပွားရေးကော်ပိုရေးရှင်းပိုင် သဝေါ်ဆိပ်ကမ်းရုံ(သီလဝါ)ရှိမြေ(၅၆၉.၇၉)ကေအနက်မှမြေ(၀၆၈.၅)ကေ ပေါ်တွင်

ဓါတ်ဆီ၊ဒီဇယ်ဆီနှင့် LPG များသိုလှောင်ခြင်းလုပ်ငန်းကို

တည်ဆောက်၊ ဆောင်ရွက်၊ လွှဲပြောင်း (B.O.T) စနစ်ဖြင့်

လုပ်ငန်းဆောင်ရွက်ရန်အတွက် ချုပ်ဆိုသည့်

မြေငှားစာချုပ်

ရက်စွဲ ။ ၂၀၁၈ ခုနှစ်၊ လ၊ ရက်။

နေရာ ။ ရန် ကုန် မြို့ ။

# မာတိကာဇယား

မာတိကာ



နောက်ဆက်တွဲများ

# မြေငှား စာချုပ်

ဤမြေငှားစာချုပ်ကို ပြည်ထောင်စုမြန်မာနိုင်ငံ၊ ရန်ကုန်မြို့တွင် ၂၀၁၇ ခုနှစ်၊--------- လ၊--------- ရက်နေ့၌ ဦးဆောင်ညွှန်ကြားရေးမှူး၊ ဦးသန့်ဆွေ ကိုယ်စားပြုသော မြန်မာစီးပွားရေးကော်ပိုရေးရှင်း (ဤမှနောင်တွင်"မြေငှားရမ်းသူ"ဟု ရည်ညွှန်းခေါ်ဆိုမည်ဖြစ်ရာ၊ ယင်းစကားရပ်တွင် စာသားအရသော် လည်းကောင်း၊ အဓိပ္ပါယ်အရသော် လည်းကောင်း၊ ရှေ့နောက်ဆန့်ကျင် ကွဲလွဲခြင်းမရှိပါက၊ ၎င်း၏ဆက်ခံသူများ နှင့် ခွင့်ပြုလွှဲအပ်သူများ ပါဝင်သည် ဟုမှတ်ယူရမည်)က တစ်ဖက်

နှင့်

ဦးမိုးဆန်းအောင် ၊ နိုင်ငံသားစိစစ်ရေးကတ်ပြားအမှတ် ၃/ဘအန(နိုင်)၀၂၅၀၇၂ အုပ်ချုပ်မှုဒါရိုက်တာ ကိုယ်စား ပြုသော မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေနှင့်အညီ တည်ထောင်ထားသော Brighter Energy Company Ltd . (KBZ Group) ၊ အမှတ်(၆၁)၊ ဘုရင့်နောင်လမ်းမ၊ ရွှေသံလွင်ဘုရား(၂)ထပ်တိုက် လုံးချင်းအိမ်ယာ၊ သီရိမ္ဂန် အိမ်ယာ၊ လှိုင်မြို့နယ်၊ရန်ကုန်တိုင်းဒေသကြီး (နောင်တွင် "အငှားချထားခြင်းခံရသူ"ဟု ခေါ်တွင် စေမည် ဖြစ်ပြီး ယင်းစကားရပ်တွင် အဆိုပါအငှားချထားခြင်း ခံရသူ၏ ဆက်ခံသူများ၊တရားဝင် ကိုယ်စားလှယ်များ နှင့် ဥပဒေနှင့်အညီ လွှဲအပ်ခြင်းခံရသူများပါ ပါဝင်စေရမည်) က တခြားတစ်ဖက်တို့သည် အောက်ပါစည်းကမ်း ချက်များနှင့်အညီ သဘောတူချုပ်ဆိုကြပါသည်။

၁။ **ရည်ရွယ်ချက်**

(က) "မြေငှားရမ်းသူ"သည် "ငှားရမ်းမည့်မြေ"ကိုဥပဒေအရ တရားဝင်ပိုင်ဆိုင်ခွင့်ရှိကြောင်း၊ ကိုယ်စား ပြုအာမခံ ချက်ပေးသဖြင့်လည်းကောင်း၊

(ခ ) "မြေငှားရမ်းသူ"က ရန်ကုန်တိုင်းဒေသကြီး၊ သန်လျင်မြို့နယ်၊ မြန်မာစီးပွားရေး ကော်ပိုရေးရှင်းပိုင် သဘော်ဖျက်စက်ရုံ(သီလဝါ)ရှိ မြေဧရိယာ(၇၆၉.၇၉)ဧက အနက်မှ မြေ(၁၆၈.၅)ဧက ပူးတွဲ(၁)တွင် အစိမ်းရောင်ဖြင့်ဘောင်ခတ်ထားသော (၁၆၈.၅)ဧက အကျယ် အဝန်းရှိ မြေနေရာ (နောင်တွင် "ငှားရမ်းသည့်မြေ"ဟုရည်ညွှန်းခေါ်ဆိုရမည်)ကို ငှားရမ်း လိုသော ဆန္ဒရှိပြီး၊ "အငှားချထားခြင်းခံရသူ"က အောက်တွင် ဆက်လက်ဖော်ပြမည့် စည်းမျဉ်း၊ စည်းကမ်းများနှင့် အညီ "ငှားရမ်းသည့်မြေ"ပေါ်တွင် ဓါတ်ဆီ၊ ဒီဇယ်ဆီ နှင့် LPG များ သိုလှောင်ခြင်းလုပ်ငန်းအား (BOT)စနစ်ဖြင့် လုပ်ငန်းလုပ်ကိုင်ရန် အတွက် အငှားရယူလို သဖြင့် လည်းကောင်း၊

ဤမြေငှားစာချုပ်ကိုနှစ်ဦးနှစ်ဖက်အကြေအလည်ညှိနှိုင်းပြီးအောက်ပါအတိုင်းသဘောတူ ချုပ်ဆိုကြပါသည်-

မြေပုံအား စာချုပ်၏ အစိတ်အပိုင်းအဖြစ် နောက်ဆက်တွဲဖြင့် ဖော်ပြအပ်ပါသည်။

၂။ **အာမခံနှင့်ကိုယ်စားပြုခြင်း**

မြေငှားစာချုပ်ဝင်တစ်ဦးတစ်ဖက်စီက အခြားတစ်ဦးတစ်ဖက်အား ၎င်းသည် ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံ၏ တရားဥပဒေများအရဖွဲ့စည်း၍ အခွင့်အာဏာအပ်နှံခြင်းခံရသော တရားဝင်ရပ်တည်ခွင့်ရှိသူ ဖြစ်ပြီး၊ ၎င်းတွင် ဤမြေငှားစာချုပ်ကို ချုပ်ဆိုနိုင်ရန်အလို့ငှာ လုပ်ပိုင်ခွင့်၊ အာဏာ၊ ခိုင်မာသောဘဏ္ဍာရေး ရပ်တည်မှုနှင့် အခွင့်အာဏာရှိသူ ဖြစ်ကြောင်း၊ ကိုယ်စားပြုအာမခံချက်ပေးပါသည်။

၃။ **မြေငှားကာလနှင့် ငှားရမ်းကာလပြင်ဆင်တိုးမြှင့်ခြင်း**

အောက်ဖော်ပြပါအတိုင်း မြေအသုံးချမှုပရီမီယံနှင့် မြေငှားခကိုပေးချေရန် သဘောတူညီချက်ကို ထောက်ထား၍"မြေငှားရမ်းသူ"သည်"အငှားချထားခြင်းခံရသူ"သို့ ဓါတ်ဆီ၊ ဒီဇယ်ဆီ နှင့် LPG များ သိုလှောင်ခြင်းလုပ်ငန်းကို တည်ဆောက်ခြင်း၊ လုပ်ငန်းဆောင်ရွက်ခြင်း နှင့် လွှဲပြောင်းခြင်းစနစ်ဖြင့် ဆောင်ရွက်ရန် စာချုပ်စတင် လက်မှတ်ရေးထိုးသည့်နေ့မှစ၍ နှစ်(၅၀)(ကနဦးနှစ်)နှင့် အဆိုပါ ကနဦးနှစ်(၅၀) သက်တမ်းကုန်ဆုံးပြီးနောက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုချက်ဖြင့် နောက်ထပ်တစ်ဆက်တည်း (၁၀)နှစ်နှင့် နောက်ထပ် (၁၀)နှစ် သက်တမ်းတိုးမြှင့်ခွင့်ပြုနိုင်သည့် စနစ်ဖြင့် အငှားချထားခွင့်ပြုသည်။

၄။ **မြေအသုံးချမှု ပရီမီယံပေးသွင်းခြင်း**

(က) "အငှားချထားခြင်းခံရသူ" သည် "မြေငှားရမ်းသူ" အား မြေအသုံးချမှု ပရီမီယံကြေးအဖြစ် မြေ(၁)ကေ လျှင် အမေရိကန် ဒေါ်လာ (၁၀,၀၀၀) (အမေရိကန် ဒေါ်လာ တစ်သောင်း တိတိ) နှုန်းဖြင့် မြေ(၁၆၈.၅)ကေ အတွက် အမေရိကန် ဒေါ်လာ (၁,၆၈၅,၀၀၀.၀၀) (အမေရိကန် ဒေါ်လာ တစ်သန်း ခြောက်သိန်းရှစ်သောင်းငါးထောင်တိတိ) ကို စာချုပ်ချုပ်ဆိုပြီး (၁)လအတွင်း "အငှားချထားခြင်းခံရသူ" က "မြေငှားရမ်းသူ" ၏ ဘဏ်ငွေစာရင်းသို့ ပေးသွင်းရမည်။

(ခ) မြေအသုံးချမှုပရီမီယံကြေးကို အထက်ပါအတိုင်း အချိန်မီပေးချေခြင်းမပြုပါက ပေးချေရန်စေ့ရောက်ပြီး နောက် ရက်(၃၀) ကျော်လွန်သည်အထိမပေးချေလျှင် ပေးချေရန်စေ့ရောက်သည့် နေ့မှစတင်၍ ရက်သတ္တပါတ် (၁)ပါတ်လျှင် ပေးချေရမည့် ငွေ၏(၀.၀၅)ရာခိုင်နှုန်း (ဒသမ သုညငါး ရာခိုင်နှုန်း)နှင့် ညီမျှသောငွေကို ဒဏ်ကြေးအဖြစ် ပေးဆောင်ရန်နှင့် ပေးသွင်းရန် တာဝန်ရှိသော ပရီမီယံကြေးများ ကျေလည်အောင် ပေးချေပြီးသည့် အချိန်အထိ ဒဏ်ကြေးကို ထပ်ဆောင်းပေးချေရမည်။

၅။ မြေငှားရမ်းခပေးချေခြင်း

(က) နှစ်စဉ်မြေငှားရမ်းခအဖြစ် (၁)ကေလျှင် အမေရိကန်ဒေါ်လာ ( ၄,၈၀၀ )နှုန်းဖြင့် စုစုပေါင်း မြေ(၁၆၈.၅)ကေ အတွက် တစ်နှစ်အတွက်ကျသင့်သော အမေရိကန် ဒေါ်လာ (၈၀၈,၈၀၀) (အမေရိကန်ဒေါ်လာ ရှစ်သိန်းရှစ်သောင်းရှစ်ရာတိတိ) ကို ပေးသွင်းရမည်။

(ခ) အထက်အပိုဒ်(က)ပါ အမေရိကန် ဒေါ်လာ (၈၀၈,၈၀၀) (အမေရိကန်ဒေါ်လာ ရှစ်သိန်းရှစ်သောင်းရှစ်ရာတိတိ)ကို "အငှားချထားခြင်းခံရသူ" မှ သတ်မှတ်ဆောက်လုပ်ရေး

ကာလ(၂၄)လ ပြီးဆုံး၍ လုပ်ငန်းစတင်လုပ်ကိုင်သည့်အချိန်တွင် "မြေငှားရမ်းသူ"ထံ စတင်ပေးချေရပါမည်။

(ဂ) နှစ်စဉ်ငှားရမ်းခများကို ပထမနှစ်အတွက် ပေးချေခြင်းစေ့ရောက်သည့် ရက်မှ ရက်(၃၀) အတွင်း တစ်နှစ်လျှင် တစ်ကြိမ် ကြိုတင်ပေးသွင်း ရပါမည်။ ပေးချေရန်စေ့ရောက်သည့်ရက်သည် ဆောက်လုပ်ရေးသက်တမ်း (၂၄)လ စေ့ရောက်သည့်နေ့(သို့မဟုတ်) စီးပွားဖြစ်လုပ်ငန်းစတင်သည့်နေ့(Grand Opening Date) ထိုနှစ်ရက် အနက်စောရာရက်ကို သတ်မှတ်ပါသည်။

၆။ **တည်ဆောက်ရေးအချိန်မီမပြီးစီးသည့်အတွက် ဒဏ်ကြေး (Penality)**

(က) စာချုပ်ပါနှင့်အညီ တည်ဆောက်ရေးကာလအတွင်း ပြီးစီးအောင် ဆောင်ရွက်နိုင်ခြင်းမရှိပါက ဒဏ်ကြေး အဖြစ်နှစ်စဉ် မြေငှားရမ်းခအတိုင်းနှုန်းထားအား နောင့်နေးအချိန်ကာလတွက်ချက်၍ ပေးဆောင်ရပါမည်။နှစ်စဉ်ငှားရမ်းခများကို အထက်ပါအပိုဒ်၅(က) ၊ (ခ) ၊ (ဂ)များနှင့်အညီ သတ်မှတ်ချိန်အတွင်း ပေးချေရန် ပျက်ကွက်ခဲ့ပါက ကျော်လွန်သည့် ရက်သတ္တပါတ် (တစ်ပါတ်)လျှင် "အငှားချထားခြင်းခံရသူ" သည် ပေးချေရမည့် ငှားရမ်းခငွေ၏ (၀.၀၅%) (ဒသမ သုည ငါးရာခိုင်နှုန်း) နှင့်ညီမျှသော အမေရိကန် ဒေါ်လာငွေကို ဒဏ်ကြေးအဖြစ် ပေးချေရန် ငှားရမ်းခများ အပြေအကျေ ပေးချေပြီးသည့် အချိန်အထိ ထပ်ဆောင်း ပေးချေရပါမည်။

ဤသဘောတူညီချက်ပါ လုပ်ငန်းများအား အငှားချထားခြင်းခံရသူသည် BOT စာချုပ်နှင့် မြေငှားစာချုပ်များ ချုပ်ဆိုပြီး (၂၄)လအတွင်း ပြီးစီးအောင် ဆောင်ရွက်ရမည်ဖြစ်ပြီး အကယ်၍ ပြီးစီးအောင် ဆောင်ရွက်နိုင်ခြင်းမရှိပါက အပိုဒ်၆(က)ပါအတိုင်း ဒဏ်ကြေး ပေးဆောင်ရမည့်အပြင် စာချုပ်ချုပ်ဆိုပြီး (၅)နှစ်အတွင်း ဆောင်ရွက်နိုင်ခြင်း မရှိပါက မြေငှားရမ်းသူမှ ငှားရမ်းသည့်မြေနှင့် မြေပေါ်ရှိအဆောက်အဦးများကို အဖိုးစားနားမဲ့ဖြင့် ပြန်လည်သိမ်းယူခွင့်ပြုရမည်။

(ခ) ငှားရမ်းခကို (၅ နှစ်)တစ်ကြိမ် ပြန်လည်ညှိနှိုင်းပြီး နှစ်ဦးနှစ်ဖက် သဘောတူ သတ်မှတ်ရမည်။ တိုးမြှင့်မည် ဆိုပါက တိုးမြှင့်မည့်နှုန်းသည် နောက်ဆုံးငှားရမ်းခ၏ (၁၀%) ထက် မကျော်လွန်စေရ။

(ဂ) ငှားရမ်းခများကို "မြေငှားရမ်းသူ"၏ အောက်ပါဘဏ်ရှိ နိုင်ငံခြားငွေစာရင်းသို့ ပေးချေရပါမည်-

ဘဏ်အမည်နှင့်လိပ်စာ မြန်မာ့နိုင်ငံခြားကုန်သွယ်မှုဘဏ်

၈၀-၈၆ ၊မဟာဗန္ဓုလလမ်းပန်းခြံလမ်း၊ ကျောက်တံတားမြို့နယ်

ငွေစာရင်းအမှတ် 1DA 0694650

၇။ **အငှားချထားခြင်းခံရသူ၏ တာဝန်များ**

"အငှားချထားခြင်းခံရသူ"သည်-

(က) "ငှားရမ်းသည့်မြေ"အားလုံးကိုသော်လည်းကောင်း၊ တစ်စိတ်တစ်ဒေသကိုသော်လည်းကောင်း၊ ထပ်ဆင့် အငှားချထားခြင်း၊ ပေါင်နှံခြင်းကို မြေငှားရမ်းသူ၏ သဘောတူညီချက် တစ်စုံတစ်ရာမပါဘဲ မပြုရန်။

(ခ) ဆောင်ရွက်မည့် ဓါတ်ဆီ၊ ဒီဇယ်ဆီ နှင့် LPG သိုလှောင်ခြင်းလုပ်ငန်းများအတွက် ဆက်နွယ်သည့် ရင်းနှီးမြှုပ်နှံ မည့်ကုန်ကျစရိတ် အားလုံးကို ကျခံရန်။

(ဂ) "ငှားရမ်းသည့်မြေ"နေရာသို့ "မြေငှားရမ်းသူ"၏ကိုယ်စားတာဝန်ပေးအပ်ခြင်း ခံရသူများအား ၎င်းတို့၏ လုပ်ငန်းတာဝန်ကို လုပ်ဆောင်ရန်အလို့ငှာဝင်ရောက်ခွင့်ပြုရန်။

(ဃ) "ငှားရမ်းသည့်မြေ"(သို့မဟုတ်)၎င်း၏ အစိတ်အပိုင်းပေါ်တွင် အကောင်အထည်ဖော်ဆောင် ရွက်မည့်လုပ်ဆောင်မှုများ နှင့် လုပ်ငန်းဆောင်ရွက်မှုများအားလုံးသည် ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံ၏ တည်ဆဲတရားဥပဒေများနှင့် အညီအညွတ်ဖြစ်ကြောင်း အာမခံချက်ပေးရန်။

(င) မြေခွန်မှအပ "ငှားရမ်းသည့်မြေ"(သို့မဟုတ်) ၎င်း၏အစိတ်အပိုင်းပေါ်တွင် ကျသင့်မည့် စည်ပင်သာယာခွန်များ၊ နှုန်းထားများ (သို့မဟုတ်) စည်းကြပ်ခွန်များ အားလုံးကိုပေးချေရန်။

(စ) "အငှားချထားခြင်းခံရသူ"သည် "မြေငှားရမ်းသူ"၏တရားဝင်စာဖြင့် ခွင့်ပြုချက်မရရှိဘဲ ဤမြေငှားစာချုပ်၏ရည်ရွယ်ချက် တစ်စုံတစ်ရာကို ပြောင်းလဲခြင်းမပြုရန်။

(ဆ) စာချုပ်ပါ လုပ်ငန်းများအား "အငှားချထားခြင်းခံရသူ"သည် စာချုပ်ချုပ်ဆိုပြီး (၅)နှစ်အတွင်း စတင်ဆောင်ရွက်နိုင်ခြင်းမရှိပါက "မြေငှားရမ်းသူ"မှပြန်လည်သိမ်းယူ ခွင့်ပြုရမည်။

(ဇ) "အငှားချထားခြင်းခံရသူ"အနေဖြင့် စီမံကိန်းအကောင်အထည်ဖော် ဆောင်ရွက်ရာ၌ နည်းပညာ အရသော်၎င်း ပြည်တွင်းပြည်ပကုမ္ပဏီများနှင့် ပူးပေါင်းဆောင်ရွက်နိုင်ရန် ဖြစ်ပေါ်လာပါက "မြေငှားရမ်း သူ" ထံတင်ပြပြီး ခွင့်ပြုချက်နှင့်အညီ ညှိနှိုင်းဆောင်ရွက်ရမည်။

အငှားချထားသည့်မြေအား အငှားချထားခြင်းခံရသူက ဤသဘောတူမှတ်တမ်းတွင် ဖော်ပြထားသော စီးပွားရေးလုပ်ငန်းများအား ဆောင်ရွက်အကောင်အထည်ဖော်ရန် အလို့ငှာ မြေငှားရမ်းသူ၏ စာဖြင့်ရေးသားထားသည့် ခွင့်ပြုချက်နှင့်အညီ အငှားချထားခြင်းခံရသူ နှင့် နိုင်ငံခြားကုမ္ပဏီတို့ ဖက်စပ်ကုမ္ပဏီ တည်ထောင်ဆောင်ရွက်မည့် လုပ်ငန်းများမှအပ ပုဂ္ဂိုလ်၊ အခြားလုပ်ငန်းများကို ထပ်ဆင့်ငှားရမ်းခြင်း၊ ရောင်းချခြင်း၊ ပေါင်နှံခြင်း၊ လွှဲပြောင်းခြင်းမပြုရပါ။

၈။ **မြေငှားရမ်းသူ၏တာဝန်များ**

"မြေငှားရမ်းသူ" သည်-

(က) "ငှားရမ်းသည့်မြေ"ကို"အငှားချထားခြင်းခံရသူ"အား လက်ရောက်ပေးအပ် ငှားရမ်းရန်။

(ခ) "အငှားချထားခြင်းခံရသူ"အား"ငှားရမ်းသည့်မြေ"သို့ရည်မှန်းထားသည့် လုပ်ငန်းတာဝန်နှင့် သင့်မြတ်လျော်ကန်သော အသုံးအဆောင်များ ဆောက်လုပ်ရန်အတွက် ငြိမ်သက်စွာနှင့်အေး

ငြိမ်းစွာ ဝင်ရောက်ခွင့်ရှိစေရန်၊ သို့ရာတွင် ၎င်းအသုံးအဆောင်များ၏ ဒီဇိုင်းများကို "မြေငှားရမ်းသူ"၏ အတည်ပြုချက်ရရှိပြီးမှသာ ဆောင်ရွက်ရမည်။

(ဂ) "အငှားချထားခြင်းခံရသူ"အား မြေငှားစာချုပ် သက်တမ်းကာလအတွင်းမည်သည့် အနှောင့်အယှက်၊ အဟန့်အတားမှမရှိဘဲ၊ "မြေငှားရမ်းသူ"၏ ယုံမှတ်အပ်နှံခံရသူအနေဖြင့် "ငှားရမ်းသည့်မြေကို ငြိမ်သက်စွာနှင့် အေးငြိမ်းစွာလက်ဝယ်ရယူထားနိုင်ခွင့်ရှိစေရန်အတွက် တာဝန်ယူဆောင်ရွက်ပေးရန်။

(ဃ) "ငှားရမ်းသည့်မြေ"အတွက် ကျသင့်သည့်မြေခွန်ကို ပေးဆောင်ရန်။

## ၉။ အခွန်များပေးဆောင်ခြင်း

"အငှားချထားခြင်းခံရသူ"သည် ဤမြေငှားစာချုပ်ကို လက်မှတ်ရေးထိုးမှုကြောင့် ပေါ်ပေါက်လာသော တံဆိပ်ခေါင်းခွန်ကို ပေးချေရန်အတွက်လည်းကောင်း၊ မြေငှားစာချုပ်၏ရည်ရွယ်ချက်ကို အကောင်အထည်ဖော်ခြင်း၊ အဆောက်အဦများဆောက်လုပ်ခြင်းနှင့် လုပ်ငန်းဆောင်ရွက်ခြင်းတို့ကြောင့် ပေါ်ပေါက်လာသော အခွန်အခများကို ပေးချေရန်အတွက်လည်းကောင်း တာဝန်ရှိသည်။

## ၁၀။ သဘာဝသယံဇာတပစ္စည်းများတွေ့ရှိခြင်း

"အငှားချထားခြင်းခံရသူ " သည် စာချုပ်ကာလအတွင်း မမျှော်လင့်ဘဲ ငှားရမ်းထားသောမြေအတွင်းမှ ဓါတ်သတ္တုအရင်းအမြစ်များ၊ ရတနာများနှင့် သယံဇာတပစ္စည်းများကိုတွေ့ရှိလျှင် မြေငှားရမ်းသူထံ ချက်ချင်းအကြောင်းကြားရန် သဘောတူပါမည်။ စာချုပ်ဝင်များ(သို့မဟုတ်) မြေငှားရမ်းသူမှတဆင့် သက်ဆိုင်ရာ မြန်မာနိုင်ငံအစိုးရအဖွဲ့အစည်းသို့ အကြောင်းကြား၍ ထိုပစ္စည်းများကို သက်ဆိုင်ရာအဖွဲ့အစည်းက လွတ်လပ်စွာတူးဖော်ရယူခွင့်ရှိစေရမည်။

## ၁၁။ ပတ်ဝန်းကျင်ထိန်းသိမ်းကာကွယ်စောင့်ရှောက်ခြင်း

"အငှားချထားခြင်းခံရသူ"သည် စွန့်ပစ်ပစ္စည်းများ စနစ်တကျစွန့်ပစ်ရန်၊ အမှိုက်များသန့်စင်စေရန် စီမံခြင်း၊ ရေဆိုးများ သန့်စင်ရန် စီမံခြင်း၊ ရေလွှတ်စနစ် ထားရှိခြင်း တို့ကို အစီအမံပြုလုပ်ထားရမည်။ ပြည်ထောင် စုသမ္မတ မြန်မာနိုင်ငံတော် ၏ ပတ်ဝန်းကျင် ထိန်းသိမ်းရေးဥပဒေ ၊ တည်ဆဲဥပဒေ ၊ နည်းဥပဒေ၊ စည်းမျဉ်း စည်းကမ်းများ၊လုပ်ထုံးလုပ်နည်းများနှင့်အညီ ပတ်ဝန်းကျင်ညစ်ညမ်းမှုမရှိစေရန် အကောင်အထည် ဖော်ဆောင် ရွက်ရမည်။

## ၁၂။ မြေကိုပြန်လည်ဝင်ရောက်သိမ်းယူခွင့်

"အငှားချထားခြင်းခံရသူ"သည် စာချုပ်ပါစည်းကမ်းချက်တစ်ရပ်ရပ်ကို ဆောင်ရွက်ရန် (သို့မဟုတ်) လိုက်နာရန်ပျက်ကွက်ခြင်းကြောင့် "မြေငှားရမ်းသူ"က ယင်းပျက်ကွက်မှုကို ပြုပြင်ရန် (သို့မဟုတ်) ကုစားပေးရန်၊ "အငှားချထားခြင်းခံရသူ" သို့ အကြောင်းကြားစာပေးပို့ပြီးနောက် အကြောင်းကြားစာပါ ကာလအတွင်း ပျက်ကွက်မှု ကိုပြုပြင်ပေးရန်၊ ကုစားပေးရန်လိုက်နာခြင်းမရှိပါက "မြေငှားရမ်းသူ"သည် အငှားချထားသည့်မြေသို့ ပြန်လည်ဝင် ရောက်လက်ရောက်ရယူပိုင်ခွင့်ရှိသည်။ ထိုသို့မြေသို့

ပြန်လည်ပင်ရောက်ရယူခြင်းသည် "မြေငှားချ ထားခြင်းခံရသူ"ထံမှ ရရန်ရှိသောငှားရမ်းခများ (သို့မဟုတ်) ပျက်စီးဆုံးရှုံးမှုအတွက် လျော်ကြေး တောင်းဆို ပိုင်ခွင့် ကို ထိခိုက်ခြင်းမရှိစေရ။

၁၃။ **စာချုပ်ပြင်ဆင်ခြင်း**

ဤမြေငှားစာချုပ်တွင် မျှော်မှန်းမထားသော အခြေအနေများပေါ်ပေါက်လာခြင်းကြောင့် မြေငှားစာချုပ်ကို ပြင်ဆင်ရန်လိုအပ်ပါက မြေငှားစာချုပ်ပင်များသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြ၍သဘောတူညီချက်ရယူပြီးနောက် စာဖြင့်ရေးသား၍ ပြင်ဆင်ရမည်။ ထိုသို့ပြင်ဆင်ချက်များကို ဤမြေငှားစာချုပ်၏ အစိတ်အပိုင်းတစ်ရပ် အဖြစ်ပါဝင်သည်ဟု မှတ်ယူရမည်။

၁၄။ **စာချုပ်ရပ်စဲခြင်း**

မြေငှားစာချုပ်ကို အောက်ပါအကြောင်းအရာပေါ်ပေါက်ပါက ရပ်စဲနိုင်သည်-

(က) လုပ်ငန်းတွင်ကြီးမားစွာ ဆက်တိုက်အရှုံးပေါ်ပေါက်နေခြင်း။

(ခ) မြေငှားစာချုပ်ပင် တစ်ဖက်ဖက်မှ စာချုပ်ပါတာဝန်တစ်ရပ်ရပ်ကိုဆောင်ရွက်ရန် ပျက်ကွက်ခြင်း။

(ဂ) ကြိုတင်မမျှော်မှန်းနိုင်သည့်အပြင် တားဆီးခြင်းလည်းမပြုနိုင်သော မလွန်ဆန်နိုင်သောဖြစ်ရပ်များသည် တစ်ဆက်တည်း(၆)လထက်ကျော်လွန် ဖြစ်ပွားခြင်း။

(ဃ) လုပ်ငန်း၏ မူလရည်မှန်းချက်များကို အကောင်အထည်ဖော်နိုင်စွမ်းမရှိတော့ခြင်း။

(င) မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှတစ်ဆင့် အစိုးရအဖွဲ့သို့တင်ပြ၍အတည်ပြုချက်ရယူပြီး နှစ်ဦးနှစ်ဖက်သဘောတူညီချက်ဖြင့် မြေငှားစာချုပ်ကို ရပ်စဲခြင်း။

(စ) "အငှားချထားခြင်းခံရသူ"မှစာချုပ်ပါလုပ်ငန်းများအား (၅)နှစ်အတွင်း အကောင်အထည်ဖော်နိုင်ခြင်းမရှိခြင်း။

(ဆ) နှစ်ဦးသဘောတူရပ်စဲခြင်း။

(ဇ) စာချုပ်ပင်တစ်ဖက်ဖက် လူမွဲအဖြစ်ခံယူခြင်း။

၁၅။ **မလွန်ဆန်နိုင်သောဖြစ်ရပ်များ**

(က) ဤသဘောတူစာချုပ်အရ ဆောင်ရွက်ရမည့် တာဝန်ဝတ္တရားများကို မလွန်ဆန်နိုင်သောဖြစ်ရပ်ကြောင့်တစ်စိတ်တစ်ဒေသဖြစ်စေ၊လုံးဝဖြစ်စေမထမ်းဆောင်နိုင်လျှင် ထိုသို့မထမ်းဆောင် နိုင်သူက တစ်ခြားတစ်ဖက်သို့ လုပ်ဆောင်နိုင်စွမ်း မရှိသောဖြစ်ရပ်ပေါ်ပေါက်သည့် နေ့မှ (၁၅)ရက် အတွင်း ထိုမလွန်ဆန်နိုင်သောဖြစ်ရပ် ပေါ်ပေါက်ကြောင်းကို အသေးစိတ်စာ ဖြင့်ရေးသား အကြောင်းကြားရမည်။ အခြားတစ်ဖက်က လက်ခံအတည်ပြုလျှင် တာဝန်ဝတ္တ ရားများ ထမ်းဆောင်ခြင်းကို ထိုမလွန်ဆန်နိုင်သော ဖြစ်ရပ်ပေါ်ပေါက်နေစဉ်ကာလအတွင်း ဆိုင်းငံ့ထားနိုင်သည်။ ထိုမလွန်ဆန်နိုင်သော ဖြစ်ရပ်ကြောင့် ကြန့်ကြာမှုအတွက် မည်သူ့တွင်မှ တာဝန်မရှိ စေရ။

(ခ) မလွန်ဆန်နိုင်သော ဖြစ်ရပ်ဆိုသည်မှာ သဘာဝဘေးဒုက္ခများ၊ လျှော်လှုပ်ခြင်း၊ သပိတ်မှောက်ခြင်း၊ ပိတ်ဆို့ခြင်း၊ သူပုန်ထခြင်း၊ အဓိကရုဏ်းဖြစ်ခြင်း၊ အရပ်ဖက်နှောင့်ယှက်ဖျက်ဆီးခြင်း၊ ပေါက်ကွဲမှုဖြစ်ခြင်း၊ မီးလောင်ခြင်း၊ ရေကြီးခြင်း၊ မုန်တိုင်းတိုက်ခတ်ခြင်းနှင့် အခြားအလားတူ အကြောင်းများ ဖြစ်ပြီး စာချုပ်ဝင်၏ ထိုက်သင့်သော ဂရုပြုမှု၊ ဖွဲ၊ လုံ့လတို့နှင့် ထိန်းချုပ်၍မရပဲ၊ ကျော်လွှားရန် မစွမ်း ဆောင်နိုင်သော ဖြစ်ရပ်များကို ဆိုလိုပါသည်။

၁၆။ အငြင်းပွားမှုဖြေရှင်းခြင်း

ဤစာချုပ်နှင့်ပတ်သက်၍အငြင်းပွားမှု တစ်စုံတစ်ရာပေါ်ပေါက်ပါက နှစ်ဦးနှစ်ဖက်ပြေလည်စွာ ညှိနှိုင်းဖြေရှင်းရမည်။ ထိုသို့ဖြေရှင်း၍မရပါက အငြင်းပွားမှုကို အနညာတစီရင်ဆုံးဖြတ်ခြင်းနည်းဖြင့် ဖြေရှင်းရမည်။ အနညာတစီရင်ဆုံးဖြတ်ခြင်းကို ၂၀၁၆ ပြည်ထောင်စုလွှတ်တော်ဥပဒေအမှတ် ၅ အနညာတစီရင် ဆုံးဖြတ်ခြင်း ဥပဒေနှင့်အညီ ဆောင်ရွက်ကြရမည်။ အနညာတစီရင်ဆုံးဖြတ်ခြင်း စရိတ်စကများကို ရှုံးသူဖက်မှ ကျခံရမည်။အနညာတစီရင်ဆုံးဖြတ်မည့်နေရာသည် ရန်ကုန်မြို့ ဖြစ်သည်။

၁၇။ စာချုပ်သက်တမ်း

(က) ဤမြေငှားစာချုပ်သည် ဤစာချုပ်အပိုဒ်(၃)တွင် ဖော်ပြထားသည့်နေ့မှ နှစ်ပေါင်း(၅၀)ငါးဆယ်စေ့ရောက်သည့်နေ့တွင် သက်တမ်းကုန်ဆုံးမည်။ထပ်မံတိုးမြှင့်မည့် ငှားရမ်းကာလများအတွက် နှစ်ဖက် သဘောတူ Addendum စာချုပ်ချုပ်ဆို၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုချက်များ ဖြင့် စာချုပ်သက်တမ်းတိုးမြှင့်နိုင်သည်။

(ခ) ဤမြေငှားစာချုပ် သက်တမ်းကုန်ဆုံးပြီးနောက် ဆက်လက်မြေငှားရမ်းမည်ဆိုပါက မြေငှားစာချုပ် သက်တမ်းမကုန်ဆုံးမီ(၃)လ (သုံးလ) ကြိုတင်၍ "အငှားချထားခြင်းခံရသူ" မှ "မြေငှားရမ်းသူ" သို့ စာဖြင့် တင်ပြရမည်။ ထို့နောက် နှစ်ဖက်ညှိနှိုင်းသဘောတူညီမည့် စည်းမျဉ်းစည်းကမ်းနှင့် နှုန်းထားများ နှင့်အညီ တစ် ကြိမ်လျှင်(၁၀)ဆယ်နှစ်စီဖြင့် (၂)နှစ်ကြိမ်အထိတိုးမြှင့်ခြင်းကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှတစ်ဆင့် အစိုးရအဖွဲ့သို့ တင်ပြအတည်ပြုချက်ရရှိမှသာ မြေငှားစာချုပ် သက်တမ်း တိုးမြှင့်ရန် ဖြစ်သည်။

၁၈။ မြေနှင့်အဆောက်အဦများ ပြန်လည်လွှဲပြောင်းပေးခြင်း

ဤမြေငှားစာချုပ် သက်တမ်းကုန်ဆုံးချိန်(သို့မဟုတ်) ရပ်စဲချိန်တွင် ငှားရမ်းထားသည့်မြေနှင့် ထိုမြေပေါ်ရှိ မရွှေ့မပြောင်းနိုင်သောပစ္စည်းများအပါအဝင် "အငှားချထားခြင်းခံရသူ"က ဆောက်လုပ် ထားသည့် အဆောက်အဦများကို ကောင်းမွန်စွာ ထိန်းသိမ်းထားသော အနေအထားအတိုင်း အဖိုးစားနားမပါဘဲ"မြေငှားရမ်းသူ" ပိုင်ပစ္စည်းအဖြစ် လွှဲပြောင်းပေးရမည်။ အကယ်၍ "မြေငှားရမ်းသူ"မှ ၎င်းအဆောက်အဦများကို အားလုံးကိုသော် လည်းကောင်း၊ တစ်စိတ်တစ်ဒေသကို သော်လည်းကောင်း၊ လက်ခံရန်ဆန္ဒမရှိလျှင် ထိုသို့လက်ခံ နိုင်ခြင်းမရှိကြောင်းညွှန်ကြားသည့်အ ဆောက်အဦများကို "မြေငှားချထား

ခြင်းခံရသူ၏ တာဝန်နှင့် ကုန်ကျစရိတ်ဖြင့်လုံးဝဖယ်ရှားပေးရမည်။ငှားရမ်းသက်တမ်းကုန်ဆုံးလျှင်ဖြစ်စေ၊ အကြောင်းကြောင်းကြောင့် စာချုပ်ရပ်စဲရသည့် အခါတွင်ဖြစ်စေ၊ စာချုပ်သက်တမ်းကုန်ဆုံးသည့်ရက် (၃)လအတွင်း သို့မဟုတ် စာချုပ်ရပ်စဲသည့်နေမှ (၃)လ အတွင်း Brighter Energy Co.,Ltd.က အငှားချထားသည့် မြေနှင့် အငှားချထားခြင်းခံရသူက ဆောက်လုပ်ထားသော အဆောက်အဦနှင့် လုပ်ငန်းများအားလုံးကို မည်သည့်အဖိုးစားနားမှ မပါရှိဘဲ မြေငှားရမ်းသူအား ကောင်းမွန်သော အနေအထားဖြင့် ပြန်လည်လွှဲခြင်း ပေးအပ်ခြင်းပြုရမည်။ သို့ရာတွင် အငှားချထားခြင်းခံရသူ ဆောက်လုပ်ခဲ့သည့် အဆောက်အဦများတွင် တပ်ဆင်ထားသည့် (Fixture)ပစ္စည်းများမှ အပ ကျန်ရွှေ့ပြောင်းနိုင်သော ပစ္စည်းများအားလုံးကို အငှားချထားခြင်းခံရသူက ယူဆောင်သွားနိုင်သည်။

၁၉။ ပြန်လည်ညှိနှိုင်းဆွေးနွေးခြင်း

ဤသဘောတူ စာချုပ်ချုပ်ဆိုစဉ်က အခြေအနေနှင့် မတူညီသော အခြေအနေတရပ်ရပ်ပေါ်ပေါက်လာပါက စာချုပ်ဝင်နှစ်ဦးနှစ်ဖက်တို့ ပြန်လည်ညှိနှိုင်းဆွေးနွေးပြီး လိုအပ်သော ပြင်ဆင်မှုများပြုလုပ်ရမည်။

၂၀။ **စာချုပ်စတင်အကျိုးသက်ရောက်မည့်နေ့**

ဤသဘောတူစာချုပ်ကို နှစ်ဖက်စာချုပ်ဝင်များ လက်မှတ်ရေးထိုးသည့်အချိန်မှစ၍ စတင်အကျိုးသက်ရောက်စေရမည်။

၂၁။ **စာပေးစာယူပြုလုပ်ရန်ကိစ္စ**

စာပေးစာယူပြုလုပ်ရာတွင် မြန်မာဘာသာ မှတ်ပုံတင်စာပို့ခြင်း၊ အမြန်ချောပို့ခြင်း၊ တဲလက်စ်ဖြင့်လည်းကောင်း၊ အီးမေးလ်၊ ဖက်စ်တို့ကိုအသုံးပြု၍ အောက်ပါလိပ်စာအတိုင်း ဆက်သွယ်ရမည်-

(က) မြေငှားရမ်းသူအတွက်

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာစီးပွားရေးကော်ပိုရေးရှင်းရုံး

(ခ ) အငှားချထားခြင်းခံရသူအတွက်

Brighter Energy Co.,Ltd.(KBZ Group)

No.(61)၊ ဘုရင့်နောင်လမ်းမ၊ ရွှေသံလွင်ဘုရား (၂)ထပ်တိုက်လုံးချင်းအိမ်ယာ၊ သီရိမွန်အိမ်ယာ၊ လှိုင်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။

၂၂။ **အထွေထွေ**

ဤမြေငှားစာချုပ်သည် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံ၏ တရားဥပဒေများ၊ လုပ်ထုံးလုပ်နည်းများ၊ စည်းကမ်းများ၊ ညွှန်ကြားချက်များနှင့် ကျင့်ထုံးများနှင့်အညီ ဤမြေငှားစာချုပ်ကြောင့်ဖြစ်ပေါ်လာသော ဆောင်ရွက်ရန် တာဝန်များကို အကောင်အထည်ဖော်ဆောင်ရွက်ရမည်။

၂၃။ **နောက်ဆက်တွဲများ**

ဤသဘောတူစာချုပ်နှင့် ပူးတွဲပါရှိသောနောက်ဆက်တွဲများသည် ဤစာချုပ်၏ တစ်စိတ်တစ်ဒေသ ဖြစ်စေရမည်။

အထက်ဖော်ပြပါ စည်းကမ်းချက်များကို စာချုပ်ဝင်နှစ်ဖက်တို့ လက်ခံသဘောတူကြပြီး၊ အောက်ပါ သက်သေများရှေ့မှောက်တွင် ဤသဘောတူစာချုပ်ကို လက်မှတ်ရေးထိုးတံဆိပ်ရိုက်နှိပ်၍ စာချုပ်ချုပ်ဆို ကြပါသည်။ သက်သေထင်ရှား စိမ့်သောငှာ၊ စာချုပ်ချုပ်ဆိုရာတွင် ပါဝင်သူများသည် အထက်ဖော်ပြပါ------ ရက်၊ ------------------ လ၊ ----------------- ခုနှစ်တို့တွင် ဤမြေငှားစာချုပ်ကို လက်မှတ်ရေးထိုးကြပါသည်။

**အငှားချထားသူ(ကိုယ်စား)** | **အငှားချထားခြင်းခံရသူ(ကိုယ်စား)**

အမည် ၊ ဦးသန့်ဆွေ
ရာထူး ၊ ဦးဆောင်ညွှန်ကြားရေးမှူး
မှတ်ပုံတင်အမှတ်၊ ၁၂/မဂဒ(နိုင်)၀၁၀၈၉၉
ဌာန ၊ မြန်မာ့စီးပွားရေးကော်ပိုရေးရှင်း
ရက်စွဲ၊ ---------------------------

အမည် ၊ ဦးမိုးဆန်းအောင်
ရာထူး ၊ အုပ်ချုပ်မှုဒါရိုက်တာ
မှတ်ပုံတင်အမှတ်၊ ၃/ဘအန(နိုင်)၀၂၅၀၇၂
ဌာန ၊ Brighter Energy Co.,Ltd.(KBZ Group)
ရက်စွဲ၊ ---------------------------

**အသိသက်သေများ**

အမည် ၊ ဦးဇော်ဝင်း
ရာထူး ၊ အထွေထွေမန်နေဂျာ(အုပ်ချုပ်ရေး )
မှတ်ပုံတင်အမှတ်၊ ၁၄/ညတန(နိုင်)၀၁၀၄၂၈
ဌာန ၊ မြန်မာ့စီးပွားရေးကော်ပိုရေးရှင်း
ရက်စွဲ၊

အမည် ၊ ဦးကောင်းစံ
ရာထူး ၊ ဒါရိုက်တာ
မှတ်ပုံတင်အမှတ် ၊ ၁၂/အစန(နိုင်)၁၈၃၇၅၂
ဌာန ၊ Brighter Energey Co.,Ltd (KBZ Group)
ရက်စွဲ၊ ---------------------------

အမည် ၊ ဦးဝင်းနိုင်
ရာထူး ၊ဒုတိယအထွေထွေမန်နေဂျာ
မှတ်ပုံတင်အမှတ်၊ ၅/စကန(နိုင်)၀၄၈၇၇၉
ဌာန ၊ မြန်မာ့စီးပွားရေးကော်ပိုရေးရှင်း
ရက်စွဲ၊

အမည် ၊ ဦးစိန်းနိုင်
ရာထူး ၊ Treasurer
မှတ်ပုံတင်အမှတ်၊ ၈/ရနခ(နိုင်)၀၆၈၁၁၅
ဌာန ၊Brighter Energy Co.,Ltd (KBZ Group)
ရက်စွဲ၊

ကာကွယ်ရေးဦးစီးချုပ်ရုံး (ကြည်း)

စစ်ထောက်ချုပ်ရုံး

မြန်မာစီးပွားရေးကော်ပိုရေးရှင်း

နှင့်

# KBZ Group Of Companies Ltd.

တို့အကြား

# ရန်ကုန်တိုင်းဒေသကြီး၊ သန်လျင်မြို့နယ်၊ မြန်မာစီးပွားရေးကော်ပိုရေးရှင်းပိုင် သင်္ဘောဖျက်စက်ရုံ (သီလဝါ)ရှိ မြေဧရိယာ (၅၆၉.၅၉) ဧကအနက်မှမြေ (၁၀၀) ဧကအပေါ်တွင် ဓါတ်ဆီ၊ ဒီဇယ်ဆီ နှင့် LPG များသိုလှောင်ခြင်းလုပ်ငန်းကို (B.O.T) စနစ်ဖြင့် လုပ်ငန်းဆောင်ရွက်ရန်အတွက် ချုပ်ဆိုသည့် နှစ်ဦးနှစ်ဖက်သဘောတူညီချက်မှတ်တမ်း (MOA)

ရက်စွဲ။ ။၂၀၁၆ ခုနှစ်၊ နိုဝင်ဘာလ၊ (၂၃ ) ရက်

နေရာ။ ။ရန်ကုန် မြို့ ။

ကာကွယ်ရေးဦးစီးချုပ်ရုံး(ကြည်း)

စစ်ထောက်ချုပ်ရုံး

မြန်မာစီးပွားရေးကော်ပိုရေးရှင်း

နှင့်

KBZ Group Of Companies Ltd.

တို့အကြား

ရန်ကုန်တိုင်းဒေသကြီး၊ သန်လျင်မြို့နယ်၊ မြန်မာစီးပွားရေးကော်ပိုရေးရှင်းပိုင်

သဘော်ဖျက်စက်ရုံ(သီလဝါ)ရှိ မြေဧရိယာ(၇၆၉.၇၉)ကေအနက်မှမြေ(၁၀၀)ကေပေါ်တွင်

ဓါတ်ဆီ၊ ဒီဇယ်ဆီ နှင့် LPG များသိုလှောင်ခြင်းလုပ်ငန်းကို

(B.O.T) စနစ်ဖြင့် လုပ်ငန်းဆောင်ရွက်ရန်အတွက် ချုပ်ဆိုသည့်

နှစ်ဦးနှစ်ဖက်သဘောတူညီချက်မှတ်တမ်း(MOA)




ရက်စွဲ ။ ၂၀၁၆ ခုနှစ်၊ နိုဝင်ဘာလ၊( ၁၃ )ရက်

နေရာ ၊ ရန် ကုန် မြို့ ။

# နှစ်ဦးနှစ်ဖက်သဘောတူညီချက်မှတ်တမ်း (MOA)

ဤနှစ်ဦးနှစ်ဖက်သဘောတူညီချက်မှတ်တမ်း(MOA)ကို ၂၀၁၆ခုနှစ်၊ နိုဝင်ဘာလ၊ -------------- ရက် နေ့တွင် ရန်ကုန်မြို့၌ ဦးသန့်ဆွေ၊ ဦးဆောင်ညွှန်ကြားရေးမှူး ကိုယ်စားပြုသော မြန်မာစီးပွားရေးကော်ပိုရေးရှင်း (နောင်တွင် " MEC " ဟု ခေါ်ဆိုမည်ဖြစ်ပြီး၊ ယင်းစကားရပ်တွင် အဆိုပါ MEC ၏ဆက်ခံသူများ နှင့် ဥပဒေနှင့်အညီ လွှဲအပ်ခြင်း ခံရသူများပါ ပါဝင်စေရမည်)က တစ်ဖက်

နှင့်

ဦးမိုးဆန်းအောင်၊ နိုင်ငံသားစိစစ်ရေးကတ်ပြားအမှတ် ၁/ဘအန (နိုင်)၀၂၅၀၇၂ မန်နေဂျင်းဒါရိုက်တာ ကိုယ်စားပြုသော မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေနှင့်အညီ တည်ထောင်ထားသော KBZ Group of Companies Ltd. ၊No.(62) ၊ ဘုရင့်နောင်လမ်းမ ၊ ရွှေသံလွင်ဘုရား(၂)ထပ်တိုက်လုံးချင်းအိမ်ယာ၊ သီရိမွန် အိမ်ယာ၊ လှိုင်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး (နောင်တွင်" KBZ "ဟုခေါ်တွင်စေမည်ဖြစ်ပြီး ယင်းစကားရပ်တွင် KBZ ၏ဆက်ခံသူများ၊ တရားဝင် ကိုယ်စားလှယ်များနှင့် ဥပဒေနှင့်အညီ လွှဲအပ်ခြင်းခံရသူများပါ ပါဝင်စေရမည်)က အခြားတစ်ဖက်တို့သည် အောက်ပါစည်းကမ်းချက်များနှင့်အညီ သဘောတူချုပ်ဆိုကြပါသည်-

လုပ်ငန်းရည်ရွယ်ချက်

၁။ KBZ သည် မြန်မာစီးပွားရေးကော်ပိုရေးရှင်းပိုင် သဘောဖျက်စက်ရုံ(သီလဝါ)ရှိ မြေဧရိယာ (၇၆၉.၇၉) ဧက အနက်မှ မြေ (၁၀၀) ဧကကို B.O.T စနစ်ဖြင့် နှစ်ရှည်ငှားရမ်း၍ အငှားရယူသော မြေပေါ်တွင် ဓါတ်ဆီ၊ ဒီဇယ်ဆီ နှင့် LPG သိုလှောင်ရေးလုပ်ငန်းများ ဆောင်ရွက်လုပ်ကိုင်ရန် ရည်ရွယ်ပါသည်။

အာမခံခြင်း နှင့် ကိုယ်စားပြုခြင်း

၂။ ဤစာချုပ်တွင် လက်မှတ်ရေးထိုးသူ နှစ်ဦးနှစ်ဖက်တို့သည် စာချုပ်ချုပ်ဆိုနိုင်ရန်အတွက် တည်ဆဲဥပဒေ အရ လုပ်ပိုင်ခွင့်အာဏာအပ်နှင်းခြင်းခံရသူများဖြစ်ကြပါသည်။ MEC သည် စာချုပ်ပါမြေကို တရားဝင်ငှားရမ်းရန် အခွင့်အာဏာရှိသူဖြစ်ပြီး KBZ သည် စာချုပ်ပါလုပ်ငန်းများကို လုပ်ကိုင်နိုင်ရန် လုပ်ငန်းအတွေ့အကြုံနှင့် ငွေကြေးအင်အားပြည့်စုံသူဖြစ်ကြောင်း အသီးသီးအာမခံကြပါသည်။

၃။ ငှားရမ်းမည့် နေရာ နှင့် ငှားရမ်းခြင်း သက်တမ်း

(က) ငှားရမ်းမည့်မြေ တည်ရှိရာနေရာ။ ရန်ကုန်တိုင်းဒေသကြီး၊ သန်လျင်မြို့နယ်၊ မြန်မာစီးပွားရေး ကော်ပိုရေးရှင်း၊ သဘောဖျက်စက်ရုံ(သီလဝါ)ပိုင် မြေဧရိယာ (၇၆၉.၇၉) ဧက အနက်မှ မြေ ဧရိယာ (၁၀၀)ဧက နေရာ။

(ခ) ငှားရမ်းသက်တမ်း။ ကနဦးငှားရမ်းသက်တမ်းမှာ နှစ်(၅၀)ဖြစ်ပြီး တစ်ကြိမ်လျှင် (၁၀)နှစ် ဖြင့် သက်တမ်းနှစ်ကြိမ် ထပ်မံတိုးမြှင့်နိုင်သည်။ ( ၅၀နှစ် + ၁၀နှစ် + ၁၀နှစ် = ၇၀ နှစ် ) ဖြစ် ပါသည်။ ကနဦးငှားရမ်းသက်တမ်းကို ဆောက်လုပ်ရေးသက်တမ်းကာလ(၂၄)လစေ့ရောက် သည့်နေ့(သို့မဟုတ်)စီးပွားဖြစ်လုပ်ငန်းစတင်သည့်နေ့ Grand Opening (၂)ရက်အနက် စောရာရက်ကို သတ်မှတ်ပါသည်။

ရင်းနှီးမြှုပ်နှံမှု

၄။ KBZ က ယခုသဘောတူညီချက်မှတ်တမ်းပါ လုပ်ငန်းဆောင်ရွက်ရန် ရင်းနှီးမြှုပ်နှံငွေ စုစုပေါင်းမှာ အမေရိကန်ဒေါ်လာသန်း(၅၀) (အမေရိကန်ဒေါ်လာသန်းငါးဆယ်တိတိ) ဖြစ်ပါသည်။

